ကုမ္ပဏီအမည် ။ မြန်မာမော်တော်ယာဉ်ကော်ပိုရေးရှင်းအများနှင့် သက်ဆိုင်သော ကုမ္ပဏီလီမိတက်
လုပ်ငန်း ။ Coach Bus, City Bus မော်တော်ယာဉ်ကိုယ်ထည် ထုတ်လုပ် တပ်ဆင် ရောင်းချခြင်း (Body Building)လုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်လက်ခံရရှိခြင်း | ၂၉-၉-၂၀၁၅ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၃၆/၂၀၁၅) သို့အစည်းအဝေး တင်ပြခြင်း | ၅-၁၀-၂၀၁၅ | | |
| ၃ | အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန် ကုမ္ပဏီသို့ အကြောင်းကြားခြင်း | ၂၂-၁၀-၂၀၁၆ | | |
| ၄ | အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်နှင့်အညီ ကုမ္ပဏီမှ ပြင်ဆင်၍ အဆိုပြုလွှာ ပြန်လည်တင်ပြခြင်း | ၂၈-၃-၂၀၁၆ | | |
| ၅ | အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်နှင့်အညီ ကုမ္ပဏီမှ ပြင်ဆင်တင်ပြလာပါဖြင့် အဆိုပြုလွှာလက်ခံကြောင်း အကြောင်းကြားခြင်း | ၃၀-၃-၂၀၁၆ | | |
| ၆ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၇-၄-၂၀၁၆ | ၁၉-၈-၂၀၁၆ | |
| | (ခ) သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး ဝန်ကြီးဌာန | ၆-၄-၂၀၁၆ | ၉-၅-၂၀၁၆ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၇-၄-၂၀၁၆ | ၁၆-၅-၂၀၁၆ | |
| | (ဃ) စက်မှုဝန်ကြီးဌာန (ဒုတိယအကြိမ်) | ၂၀-၆-၂၀၁၆ | ၄-၇-၂၀၁၆ | |
| | (င) စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန | ၇-၄-၂၀၁၆ | ၃-၅-၂၀၁၆ | |
| | (စ)ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီး ဌာန | ၇-၄-၂၀၁၆ | ၄-၅-၂၀၁၆ | |
| ၇ | ရက်ပေါင်း(၉၀) ကျော်လွန်မည် ဖြစ်ပါ၍ အဆိုပြုလွှာပြန်လည်ပေးပို့ခြင်း | ၃၀-၆-၂၀၁၆ | | |
| ၈ | ကုမ္ပဏီမှ အဆိုပြုလွှာပြန်လည်တင်ပြခြင်း | ၆-၉-၂၀၁၆ | | |
| ၉ | **စုစုပေါင်းကြာမြင့်ရက်** | (၁၆၀)ရက် | | |

ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၏ သဘောထားမှတ်ချက် ပြန်ကြားလာခြင်း မရှိသေးပါသဖြင့် ရက်ပေါင်း (၉၀) ကျော်လွန်ရခြင်း ဖြစ်ပါသည်။

အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာမော်တော်ယာဥ်ကော်ပိုရေးရှင်း အများနှင့် သက်ဆိုင်သော ကုမ္ပဏီလီမိတက် တည်ထောင်၍ Coach Bus, City Bus မော်တော်ယာဥ်ကိုယ်ထည်ထုတ်လုပ်တပ်ဆင်ရောင်းချခြင်း (Body Building) လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်အဆိုပြုတင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁ | ကုမ္ပဏီ/ကမကထပြုသူ အမည် | -မြန်မာမော်တော်ယာဥ် ကော်ပိုရေးရှင်းအများနှင့် သက်ဆိုင်သော ကုမ္ပဏီလီမိတက်<br>- ဦးသိန်းသန်းအောင် |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - Coach Bus, City Bus မော်တော်ယာဥ်ကိုယ်ထည် ထုတ်လုပ် တပ်ဆင် ရောင်းချခြင်း (Body Building)လုပ်ငန်း |
| ၂ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန် စက်မှုဇုန်၊ မြေကွက်အမှတ်-စနှင့် ရွှေပေါက်ကံစက်မှုဇုန်၊ မြေကွက် အမှတ်-၂၃၂/င၂ |
| ၃ | မြေပိုင်ရှင် | - ဦးငွေအောင် |
| | မြေအကျယ်အဝန်း | - ၃.၂၂၆ ဧက (၁၃၀၅၅.၁၇၀ စတုရန်းမီတာ)<br>၆၀၀ပေ x ၁၆၀ ပေ စက်ရုံ အဆောက်အဦ တစ်လုံး<br>၉၀ပေ x ၄၆ ပေ နှစ်ထပ် ရုံးအဆောက်အဦတစ်လုံး<br>၂၄ ပေ x ၃၀ ပေ နှစ်ထပ် မန်နေဂျာအိမ် တစ်လုံး<br>၁၂၀ ပေ x ၃၂ ပေ နှစ်ထပ် ဝန်ထမ်းအိမ်ရာ တစ်လုံး |
| ၄ | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၅ | စုစုပေါင်းမတည်ငွေရင်း | - ကျပ် ၁၄၆၁၈.၀၀ သန်း (အမေရိကန်ဒေါ်လာ ၆.၀၀ သန်း အပါအဝင်) |

| ထည့်ဝင်သည့်အမျိုးအစား | မြန်မာငွေ (ကျပ်သန်း) | US $ သန်း | စုစုပေါင်း (ကျပ်သန်း) |
|---|---|---|---|
| ငွေသား | ၂၀၀၀ | - | ၂၀၀၀ |
| စက်ပစ္စည်းတန်ဖိုး | - | ၁.၀၀ | ၁၀၀၀ |
| မြေနှင့်အဆောက်အဦတန်ဖိုး | ၆၀၀၀ | - | ၆၀၀၀ |
| ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း တန်ဖိုး | ၁၈ | - | ၁၈ |
| မော်တော်ယာဥ်တန်ဖိုး(ပြည်ပ) | ၆၀၀ | - | ၆၀၀ |
| ကုန်ကြမ်းတန်ဖိုး | - | ၅.၀၀ | ၅၀၀၀ |
| **စုစုပေါင်း** | **၈၆၁၈** | **၆.၀၀** | **၁၄၆၁၈** |

| | | |
|---|---|---|
| ၆ | ဝန်ထမ်းအင်အား(ပထမနှစ်) | - **၂၀၀ ဦး** |
| | ပြည်တွင်း | - ၁၉၆ ဦး (ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ်၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၇၀၀,၀၀၀ဖြစ်ပါသည်။) |

| | | |
|---|---|---|
| | ပြည်ပ | - ၄ ဦး (ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၂,၅၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၇,၅၀၀,၀၀၀ ဖြစ်ပါသည်။) |
| ၇ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်းတွင် ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ |
| ၈ | ကုမ္ပဏီ၏ဝင်ငွေ (၆ နှစ်မြောက်) | - ကျပ် ၁၆၈၀၀.၀ သန်း |
| | ကုမ္ပဏီ၏ အသုံးစရိတ် | - ကျပ် ၁၅၇၀၀.၆ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ် | - ကျပ် ၁၀၉၉.၄ သန်း |
| ၉ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ် (ဆဋ္ဌမနှစ်) | |
| | ဝင်ငွေခွန် | - ကျပ် ၇၃၃.၀ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၈၄၀.၀ သန်း |
| | အရင်းကြေကာလ | - ၉ နှစ် ၁၀ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း(IRR) | - ၁၇.၇၄% |
| ၁၀ | နှစ်စဉ်လျှပ်စစ်ဓာတ်အားလိုအပ်ချက် | - ၅၀၆၀၆၄ kWh |
| ၁၁ | ထုတ်လုပ်မှုနှင့် ရောင်းချမည့် ဈေးနှုန်း (၆နှစ်မြောက်) | |

| အမျိုးအစား | အရေအတွက်(စီးရေ) | ဈေးနှုန်း (ကျပ်'၀၀၀/စီးရေ) |
|---|---|---|
| Coach Bus (48 Seaters) | ၇၀ | ၁၈၀,၀၀၀ |
| City bus (25-30 Seaters) | ၇၀ | ၆၀,၀၀၀ |

| | | |
|---|---|---|
| ၁၂ | အခြား | - မြေအထောက်အထားအဖြစ် ဦးဌေးအောင် အမည်ပေါက် မြေဂရန် များအား တင်ပြထားပြီး ဦးဌေးအောင်မှ ကုမ္ပဏီသို့ မြေနှင့် အဆောက်အဦအား ကျပ်သန်း၆၀၀၀ဖြင့်တန်ဖိုးသင့်၍ ရှယ်ယာအဖြစ် ထည့်ဝင်ထားကြောင်း အထောက်အထား၊ မြေပိုင်ရှင်အမည်အား ဦးဌေးအောင် အမည်မှ မြန်မာ မော်တော်ယာဉ် ကော်ပိုရေးရှင်း အများပိုင် ကုမ္ပဏီ လီမိတက် အမည်သို့ ပြောင်းလဲရန် မြို့ပြနှင့် အိမ်ရာဖွံ့ဖြိုးရေး ဦးစီးဌာန သို့ လျှောက်ထားကြောင်း အထောက်အထားများ တင်ပြထား ပါသည်။<br>- လုပ်ငန်းတည်နေရာပြမြေပုံ၊ထုတ်လုပ်မည့်အစီအစဉ်၊စက်ပစ္စည်း Layout Planများ၊ Quality Control ဆောင်ရွက်မည့် စနစ်များ၊ ကုန်ပစ္စည်းဓာတ်ပုံများအားတင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - ရရှိလာမည့် အသားတင် အမြတ်ငွေမှ ၂% ကို Corporate Social Responsibility (CSR) အတွက် ထည့်ဝင်မည် ဖြစ်ကြောင်း၊ မီးဘေးကြိုတင် ကာကွယ်မှုများ အစီအစဉ်များ၊ အလုပ်သမား များ အတွက် ဆောင်ရွက်ပေးမည့် အစီအစဉ်များ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ အစီအမံများကို ရေးဆွဲမည် ဖြစ်ကြောင်း တင်ပြထားပါသည်။<br><br>- စင်ကာပူနိုင်ငံ Singapore Technologies Kinetics Ltd. နှင့် Myanmar Motor Corporation Public Co., Ltd. တို့ချုပ်ဆိုထားသည့် Dealership Contract အား တင်ပြပါသည်။<br><br>- ထိုင်းနိုင်ငံရှိ MAN Truck & Bus Asia Pacific Co., Ltd. မှ မြန်မာမော်တော်ယာဉ် ကော်ပိုရေးရှင်း အများပိုင်ကုမ္ပဏီ လီမိတက်သို့ MAN အမှတ်တံဆိပ် မော်တော်ယာဉ်များ ထုတ်လုပ်ခွင့်ပြုထားသော Authorized Letter အား တင်ပြထားပါသည်။<br><br>- Myanmar Motor Corporation Public Co., Ltd. သည် ကုမ္ပဏီမှတ်ပုံတင်အမှတ်၊ ၂၄၂၃/၂၀၁၂-၂၀၁၃ ဖြင့် ၂၀၁၂ ခုနှစ် စက်တင်ဘာလ ၁၃ ရက်နေ့တွင် အများပိုင်ကုမ္ပဏီအဖြစ် မှတ်ပုံတင် ထားသည့် အထောက်အထား၊ ၂၀၁၅ ခုနှစ် ဇွန်လ ၃ ရက်နေ့တွင် သက်တမ်းတိုးထားသည့် အထောက်အထား၊ ၂၀၁၃ ခုနှစ် ဇန်နဝါရီလ ၁၁ ရက်နေ့တွင် ၁၈/၂၀၁၂-၂၀၁၃ ဖြင့် လုပ်ငန်းစတင် ဆောင်ရွက်ခွင့်လက်မှတ် ရရှိထားပြီး ဖြစ်ကြောင်း အထောက်အထားများ တင်ပြထားပါသည်။<br><br>- ပြည်ထောင်စုမြန်မာနိုင်ငံ ကုန်သည်များနှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်းချုပ်အဖွဲ့ဝင် လက်မှတ်(မိတ္တူ) အား တင်ပြထားပါသည်။<br><br>- ငွေကြေးအထောက်အထား အဖြစ် Myanmar Motor Corporation Public Co., Ltd. ကမ္ဘောဇရတနာဘဏ်တွင် ၄-၂-၂၀၁၆ ရက်စွဲဖြင့် ကျပ် ၁,၁၀၀,၀၅၈,၇၀၀ရှိကြောင်း အထောက်အထားများ တင်ပြထားပါသည်။<br>- အဆိုပြုချက်နှင့်အတူ ရင်းနှီးမြှုပ်နှံသူများ၏ နိုင်ငံသား စိစစ်ရေးကတ်(မိတ္တူ) များအား တင်ပြထား ပါသည်။<br>- Myanmar Motor Corporation Public Co., Ltd. ၏ MOA, AOA များ၊ ဒါရိုက်တာစာရင်း (မိတ္တူ)ကို တင်ပြထားပါသည်။ |

| | |
|---|---|
| ကုမ္ပဏီအမည် | - မြန်မာမော်တော်ယာဉ် ကော်ပိုရေးရှင်းအများနှင့် သက်ဆိုင်သော ကုမ္ပဏီလီမိတက် |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - Coach Bus, City Bus မော်တော်ယာဉ် ကိုယ်ထည် ထုတ်လုပ်တပ်ဆင်ရောင်းချခြင်း (Body Buildin g)လုပ်ငန်း |
| တည်နေရာ | - မြေကွက်အမှတ်-၈၊ ရန်ကုန်စက်မှုဇုန်နှင့် မြေကွက်အမှတ်-၂၃၂/င^၂၊ ရွှေပေါက်ကံစက်မှုဇုန်၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၁၄၆၁၈ သန်း (US$ ၆ သန်းအပါအဝင်) |
| အရင်းကြေကာလ | - ၉နှစ် ၁၀လ |
| IRR | - ၁၇.၇၄%. |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၃.၀၀ (တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၀.၆၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၈၀ | |
| ၄ | ဝင်ငွေခွန် | ၁၄၄၀.၄၅ | ၁၅၀၁.၉ |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ၅၂၈၀.၀ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | - | ၁၃၆.၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | တစ်နှစ်ဝင်ငွေကျပ်သိန်း နှစ်ဆယ်ထက်ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း(၂၈)ဦး |
| ၈ | CSR (၂ %) | - | ၁၆၀.၂၉၂ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းလုပ်သား (၁၉၆) ဦး အလုပ် အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ အလုပ်အကိုင် အခွင့်အလမ်းများ ပိုမိုရရှိ စေပြီး ဆင်းရဲနွမ်းပါးမှု လျော့ချရေးကို အထောက်အကူ ပြုစေနိုင်ပါသည်။ |
| | စုစုပေါင်း | ကျပ် ၁၅၂၃.၄၅ သန်း | ကျပ် ၇၀၇၉.၃၅၇ သန်း |
| | Cost : Benefit | ၁:၅ | |

**ကန့်သတ်**

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၃/မ-၁၂၇၁/၂၀၁၆( ၁၁၉၅ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် စက်တင်ဘာလ ၇ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **မြန်မာမော်တော်ယာဥ် ကော်ပိုရေးရှင်း အများနှင့် သက်ဆိုင်သော ကုမ္ပဏီလီမိတက်မှ Coach Bus, City Bus မော်တော်ယာဥ် ကိုယ်ထည် ထုတ်လုပ်တပ်ဆင်ရောင်းချခြင်း(Body Building)လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ မြန်မာမော်တော်ယာဥ် ကော်ပိုရေးရှင်း အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်စက်မှုဇုန်၊ မြေကွက်အမှတ်-စရှိ မြေဧရိယာ ၁.၉၉၉ဧက (၈၀၈၉.၆၇၃ စတုရန်းမီတာ)နှင့် ရွှေပေါက်ကံစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၁၈၊ မြေကွက်အမှတ်-၂၃၂/ဂ၂ ရှိ မြေဧရိယာ ၁.၂၂၇ ဧက(၄၉၆၅.၄၉၇ စတုရန်းမီတာ)၊ စုစုပေါင်းမြေ ၃.၂၂၆ ဧက (၁၃၀၅၅.၁၇၀ စတုရန်းမီတာ) ပေါ်ရှိ အဆောက်အဦတွင် Coach Bus, City Bus မော်တော်ယာဥ်ကိုယ်ထည်ထုတ်လုပ်တပ်ဆင်ရောင်းချခြင်း(Body Building)လုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးသိန်းသန်းအောင်(အဘ-ဦးဌေးအောင်)မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့အဆိုပြုတင်ပြလာပါသည်။

၂။ မြန်မာမော်တော်ယာဥ် ကော်ပိုရေးရှင်း အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်သည် Germany နိုင်ငံ MAN Bus & Truck မှ ကုန်ကြမ်း Bare Chassis များ အခြားကုန်ကြမ်းပစ္စည်းများနှင့် နည်းပညာများရယူ၍ ပြည်တွင်းမှ ကုန်ကြမ်းပစ္စည်းများ စုပေါင်းပြီး Coach Bus နှင့် City Bus များကို ပြည်တွင်း၌ ပြန်လည်တပ်ဆင် ထုတ်လုပ်လိုကြောင်းတင်ပြထား ပါသည်။ မြန်မာမော်တော်ယာဥ် ကော်ပိုရေးရှင်း အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်သည် CKD,SKD စနစ်ဖြင့် ထုတ်လုပ်ခြင်း မဟုတ်ဘဲ Bare Chassis စနစ်ဖြင့်သာ ထုတ်လုပ်မည်ဖြစ်ပါသည်။

၃။ အဆိုပြုချက်နှင့်အတူ ကုမ္ပဏီ၏ ဒါရိုက်တာအဖွဲ့ဝင် တစ်ဦးဖြစ်သူ ဦးဌေးအောင်မှ ၎င်းပိုင်မြေနှင့် အဆောက်အဦအား ရှယ်ယာအဖြစ် ထည့်ဝင်ကြောင်းနှင့် ကုမ္ပဏီအမည်သို့ ပြောင်းလဲရန် လျှောက်ထားကြောင်း အထောက်အထားများ၊ ဦးဌေးအောင် အမည်ပေါက် မြေဂရန်နှင့် အဆောက်အဦဓာတ်ပုံများ၊ အဆောက်အဦတည်နေရာပြမြေပုံ၊ စက်ပစ္စည်း Layout Plan၊ MAN အမှတ်တံဆိပ် မော်တော်ယာဥ်ထုတ်ရန်အတွက် ထိုင်းနိုင်ငံ၏ MAN Truck & Bus Asia pacific Co., Ltd. မှ မြန်မာမော်တော်ယာဥ်ကော်ပိုရေးရှင်း အများပိုင် ကုမ္ပဏီလီမိတက်သို့ ထုတ်လုပ်ခွင့်ပြုထားသော Authorized Letter၊ Singapore Technologies Kinetics Ltd. နှင့် ချုပ်ဆိုထားသည့် Dealership Contract၊ ထုတ်လုပ်မှုနည်းစဥ် နှင့် ထုတ်လုပ်မည့် မော်တော်ယာဥ်များ၏ ဓာတ်ပုံ၊ မြန်မာနိုင်ငံ ကုန်သည်များနှင့် စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းမှ ပေးအပ်ထားသည့် အသင်းဝင်

**ကန့်သတ်**

လက်မှတ်၊ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ လုပ်ငန်းစတင်ဆောင်ရွက်ခွင့်လက်မှတ်၊ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့ စည်းမျဉ်းတို့အား တင်ပြထားပါသည်။

၄။ လုပ်ငန်းဆောင်ရွက်မည့် မြေနှင့် အဆောက်အဦအား ကျပ်သန်း၆၀၀၀ ဖြင့် တန်ဖိုးသင့်၍ ဦးဌေးအောင် အမည်မှ မြန်မာမော်တော်ယာဉ် ကော်ပိုရေးရှင်းအများနှင့်သက်ဆိုင်သော ကုမ္ပဏီ လီမိတက်သို့ ပြောင်းလဲရန် မြို့ပြနှင့် အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာနသို့ လျှောက်ထားသည့် အထောက် အထားအား တင်ပြထားပါသည်။ တည်ဆောက်ရေးကာလမှာ ၁ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြ ထားပါသည်။

၅။ လုပ်ငန်း၏ မတည်ငွေရင်းပမာဏမှာ ကျပ် ၁၄၆၁၈ သန်း (အမေရိကန်ဒေါ်လာ ၆.၀၀သန်း အပါအဝင်) ဖြစ်ပြီး အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုအခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| **ထည့်ဝင်သည့်အမျိုးအစား** | **မြန်မာငွေ (ကျပ်သန်း)** | **US $ သန်း** | **စုစုပေါင်း (ကျပ်သန်း)** |
|---|---|---|---|
| ငွေသား | ၂၀၀၀ | - | ၂၀၀၀ |
| စက်ပစ္စည်းတန်ဖိုး | - | ၁.၀၀ | ၁၀၀၀ |
| မြေနှင့်အဆောက်အဦတန်ဖိုး | ၆၀၀၀ | - | ၆၀၀၀ |
| ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းတန်ဖိုး | ၁၈ | - | ၁၈ |
| မော်တော်ယာဉ်တန်ဖိုး | ၆၀၀ | - | ၆၀၀ |
| ကုန်ကြမ်းတန်ဖိုး | - | ၅.၀၀ | ၅၀၀၀ |
| **စုစုပေါင်း** | **၈၆၁၈** | **၆.၀၀** | **၁၄၆၁၈** |

၆။ လုပ်ငန်း ဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း(၁၉၆)ဦးနှင့် ပြည်ပမှ ဝန်ထမ်း(၄)ဦး ခန့်ထားမည် ဖြစ်ပြီး ပြည်တွင်း အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏လစာမှာ ကျပ် ၁၅၀,၀၀၀နှင့် အမြင့်ဆုံး ဝန်ထမ်း တစ်ဦး၏လစာမှာ ကျပ် ၇၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပ အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏လစာမှာ ကျပ် ၂,၅၀၀,၀၀၀နှင့် အမြင့်ဆုံး ဝန်ထမ်း တစ်ဦး၏လစာမှာ ကျပ် ၇,၅၀၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်သော Coach Bus နှင့် City Bus များကို ပြည်တွင်းတွင် ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (၆-နှစ်မြောက်)တွင် ထုတ်လုပ်မှုနှင့် ရောင်းချမည့်ဈေးနှုန်း များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

| **အမျိုးအစား** | **အရေအတွက် (စီးရေ)** | **ဈေးနှုန်း (ကျပ် ၀၀၀/စီးရေ)** |
|---|---|---|
| Coach Bus(48 Seaters) | ၇၀ | ၁၈၀,၀၀၀ |
| City Bus (25-30 Seaters) | ၇၀ | ၆၀,၀၀၀ |

၈။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | | ကျပ် (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၁၆၈၀၀.၀၀ |
| (ခ) | အသုံးစရိတ် | ၁၅၇၀၀.၆၀ |
| (ဂ) | အသားတင် အမြတ် | ၁၀၉၉.၄၀ |

၉။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၇၃၃ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၈၄၀ သန်း ရရှိမည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ အရင်းကြေ ကာလမှာ ၉ နှစ် ၁၀ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR)မှာ ၁၇.၇၄%ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် ၁၀၀၀ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။

၁၀။ အဆိုပြုချက်နှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၊ စက်မှုဝန်ကြီးဌာန၊ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနနှင့် စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာနများသို့ သဘောထားတောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထားပြန်ကြားလာပါသည်-

(က)**ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ မြန်မာမော်တော်ယာဉ် ကော်ပိုရေးရှင်း အများနှင့် သက်ဆိုင်သော ကုမ္ပဏီလီမိတက် နှင့်စပ်လျဉ်း၍ ကုန်ကြမ်း ၁၀၀% တင်သွင်းမှုကို နိုင်ငံခြားငွေဖြင့် ဝယ်ယူရမည် ဖြစ်ပြီးထွက်ရှိသည့် ကုန်ချောအားလုံးကို ပြည်တွင်း၌ "ကျပ်" ငွေဖြင့်သာ ရောင်းချမည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရသဖြင့် နိုင်ငံခြားငွေပြည်ပသို့ စီးထွက်မှုဖြစ်ပေါ်နေပါ၍ ပြန်လည်သုံးသပ်ရန် သဘောထားပြန်ကြားထားပါသည်။ **(နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေ၊ အခန်း(၄)၏ အခြေခံမူများတွင် သွင်းကုန်အစားထိုး ကုန်ပစ္စည်းများထုတ်လုပ်ခြင်းကို အခြေခံပြီး ခွင့်ပြုရမည်ဟုပါရှိပါသည်။)**

**နောက်ဆက်တွဲ(က)**

(ခ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာန**မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါအချက်များအတိုင်းလိုက်နာ ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်-

(၁) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြု ရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ အကျိုးပြုလုပ်ငန်း များ

တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင်အမြတ်ငွေ၏ ၂% အား အသုံးပြုခြင်း အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၂) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေရေးအတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း(Initial Environmental Examination-IEE)ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များအတိုင်း အစီရင်ခံစာရေးသားတင်ပြရန်နှင့် ဝန်ကြီးဌာနမှ လိုအပ်ပါက ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)ကို ဆက်လက်ဆောင်ရွက်ရန်။

(၃) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ် စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများ အတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan- EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာ ဆောင်ရွက်ရန်။ **တတိယအဖွဲ့အစည်းဖြစ်သည့် AMK & Associates(EIA Consulting)မှ IEE ,EIA အစီရင်ခံစာများကို ၆-၉-၂၀၁၆ ရက်နေ့တွင် စတင်ဆောင်ရွက်ပြီး (၄၅) ရက်အတွင်းပြီးစီးအောင်ဆောင်ရွက်မည် ဖြစ်ကြောင်းတင်ပြထားပါသည်။**

**နောက်ဆက်တွဲ (ခ)**

(ဂ) **စက်မှုဝန်ကြီးဌာနမှ** ထုတ်လုပ်မှု နည်းစနစ်တွင် (SKD, CKD) စနစ်များ ထည့်သွင်းဖော်ပြရန်၊ စက်ပစ္စည်းများ၏ Machine Layout များ ဖော်ပြရန်၊ မော်တော်ယာဉ်ထုတ်လုပ်ရာတွင် စံချိန်စံညွှန်း၊ Road Safety စသည့် အချက်များကို ထည့်သွင်းစဉ်းစားရန်နှင့် မော်တော် ယာဉ်ကို တပ်ဆင်ထုတ်လုပ်မည့်ပုံစံအား တိတိကျကျဖော်ပြရန်၊ Bus ထုတ်လုပ်မည်ဖြစ်၍ အမိုး၊ ဘေးအကာများ ရေလုံ/ မလုံစမ်းသပ်ရန်နှင့် Performance Test များ ပြုလုပ်ရန် Testing Equipment များလိုအပ်ကြောင်း၊ Stabilityကို ဦးစားပေး၍ Quality Control အတွက် ဆောင်ရွက်မည့် နည်းလမ်းများလိုအပ် ကြောင်းနှင့်MAN ကုမ္ပဏီအနေဖြင့် Body Building တည်ဆောက်ပြီးနောက်

Bus အပြင် Fuel Tanker, Water Bowser, Dump Truck, Cement Mixer, Fire Fighting Trucks and Compactor စသည့်တို့အား ထုတ်လုပ်ခွင့်ပြုထားကြောင်း စိစစ်ချက် ပြန်ကြားလာခြင်းအပေါ် **ကုမ္ပဏီမှ ထုတ်လုပ်မှုနည်းစနစ်သည် Bare Chassis, Body Building ဖြင့် ထုတ်လုပ်မည်ဖြစ်ကြောင်း၊ စက်ပစ္စည်းများ၏ Machine Layout များ ၏ Machine Layout များဖော်ပြမည်ဖြစ်ကြောင်း၊ Testing Equipmentများ ကို RAV(Italy)မှ မှာယူထားပြီးဖြစ်၍ ၎င်း Test Equipmentများ၏ စာရင်းများကို ပြန်လည်တင်ပြထားကြောင်း၊ Stabilityကို ဦးစားပေး၍ Quality Control အတွက် ဆောင်ရွက်မည့် နည်းလမ်းများထည့်သွင်းဖော်ပြပေးမည် ဖြစ်ကြောင်းတင်ပြထားပါသည်။ ကုမ္ပဏီမှ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင် တင်ပြချက်အားစက်မှုဝန်ကြီးဌာနမှစိစစ်လက်ခံပြီးဖြစ်ပါသည်။**

**နောက်ဆက်တွဲ(ဂ)**

(ဃ) **ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့် ပတ်သက်၍ တစ်ဖက်ပါ အချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ် မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည် -

(၁) မော်တော်ယာဉ်များအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံအတွင်း တပ်ဆင်ထုတ်လုပ်မှု ပြုရာတွင် လိုက်နာဆောင်ရွက်ရမည့် သတ်မှတ်ချက်များ-

(က) ASEAN Motor Vehicle Requirement Standard (ပူးတွဲ-က)။

(ခ) City Bus ယာဉ်များဖြစ်ပါက ပတ်သက်သည့် "ညွှန်ကြားချက်အမှတ်- ၃၀/၁၄"(ပူးတွဲ-ခ)။

(ဂ) ခရီးသည်တင်ယာဉ်များအတွက် သက်မှတ်ချက်များ (ပူးတွဲ-ဂ)။

(ဃ) ၁၉၈၉ခုနှစ် မော်တော်ယာဉ် နည်းဥပဒေများပါ ပြဋ္ဌာန်းချက်များအရ မြန်မာနိုင်ငံသည် လက်ယာကပ်မောင်းစနစ် ကျင့်သုံးပါသဖြင့် Road Safety ဖြစ်စေရန် ယာဉ်ကြောစနစ် အရ လိုက်လျောညီထွေ ဖြစ်စေ မည့် လက်ဝဲဘက်မောင်း (Left Hand Drive) ယာဉ်များသာ ထုတ်လုပ် ရန်။

(င) ထုတ်လုပ်မည့် မော်တော်ယာဉ်၏ အမျိုးအမည်၊ အမျိုးအစား၊ Model အတွက် ပုံစံအတည်ပြုသတ်မှတ်ချက်ရရှိပြီး ဖြစ်ရမည်၊ ထုတ်လုပ်မည့် ခရီးသည်တင်ယာဉ်နှင့် ပတ်သက်သည့် Specification များပြည့်စုံစွာ ဖော်ပြရန်။

(စ) အများပြည်သူဆိုင်ရာ လမ်းများပေါ်တွင် အန္တရာယ်ကင်းပြီး လုံခြုံစိတ်ချစွာ မောင်းနှင်အသုံးပြုနိုင်ရေးအတွက် မော်တော်ယာဥ် စမ်းသပ်စစ်ဆေးသည့်အလုပ်ရုံ (Vehicle Testing Workshop) တွင်ရှိသော Test Lane ဖြင့် ယာဥ်ကြံ့ခိုင်မှု စစ်ဆေးပြီး အောင်မြင်မှသာလျှင် ဈေးကွက် အတွင်းသို့ ဖြန့်ဖြူးရောင်းချရန်။

(၂) အဆိုပါယာဥ်များအား အမှန်တကယ် ထုတ်လုပ်ချိန်တွင် မှတ်ပုံတင်ပြုလုပ်ပေးနိုင်ရန်အတွက် လိုအပ်သောအထောက်အထားများ-

(က) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်လုပ်ခွင့် ပြုထားသော Brand Model အလိုက်ထုတ်လုပ်ခွင့်ပြုသည့် အရေအတွက် ဖော်ပြထားသော အထောက်အထား။

(ခ) အဆိုပါ Coach Bus, City Bus မော်တော်ယာဥ်များ ထုတ်လုပ်သောမူရင်း(နိုင်ငံခြား)ကုမ္ပဏီ တည်ရှိသည့်နိုင်ငံမှ အဆိုပါ မော်တော်ယာဥ်များ တပ်ဆင်ထုတ်လုပ် ခွင့်ပြုထားသော အထောက်အထား (Letter of Authorization၊ Type Certificate)။

(ဂ) အဆိုပါ Coach Bus, City Bus မော်တော်ယာဥ်များ ထုတ်လုပ် သောမူရင်း(နိုင်ငံခြား) ကုမ္ပဏီမှ ယခုပြည်တွင်း၌ တပ်ဆင်ထုတ် လုပ်ရန်တင်ပြထားသော Myanmar Motor Corporation Public Co., Ltd.အား အဆိုပါမော်တော်ယာဥ်များကို CKD (သို့မဟုတ်)SKD ဖြင့်ထုတ်လုပ်ခွင့်ပြုထားသော အထောက်အထား။

(ဃ) ထုတ်လုပ်ပြီးသော Coach Bus, City Bus မော်တော်ယာဥ်များ၏ Quality Control (QC)ပြုလုပ်မှုအား မူရင်း(နိုင်ငံခြား)ကုမ္ပဏီမှ QC နှင့် ပြည်တွင်း ကုမ္ပဏီ၏ QCတို့မှ ပူးတွဲ တာဝန်ယူမည့် အထောက်အထား။

(င) ထုတ်လုပ်ပြီးသော Coach Bus, City Bus မော်တော်ယာဥ်များ အားမူရင်းကုမ္ပဏီမှ ထုတ်လုပ်သည့် မော်တော်ယာဥ်များဟု မှတ်ယူနိုင်ရေးအတွက်မူရင်းကုမ္ပဏီတွင်အဆိုပါအမျိုးအစားမော်တော်ယာဥ်များထုတ်လုပ်ပြီးသည့် အချိန်တွင် တပ်ဆင်ပေးသည့် Vehicle Identification Number (VIN) Plate တပ်ဆင်ပေးမည် ဖြစ်ကြောင်း အထောက်အထား။

**နောက်ဆက်တွဲ(ဃ)**

(င) **စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာနမှ** ပြည်ပကျွမ်းကျင်ပညာရှင်များကို ခေါ်ယူခန့်ထားခြင်းသည်လည်းကောင်း၊ ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင်

လည်းကောင်း အလုပ်ခန့်ထားမှု သဘောတူစာချုပ်ကို ချုပ်ဆိုခြင်း၊ တည်ဆဲ ဥပဒေများနှင့်အညီ လိုက်နာဆောင်ရွက်ခြင်းများ ပြုလုပ်သင့်ကြောင်း၊ ပြည်ပကုန်ကြမ်းများနှင့် ပြည်တွင်းမှ ကုန်ကြမ်းများစုပေါင်းပြီး ထုတ်လုပ်မည်ဟု ဖော်ပြထားသော်လည်း သုံးစွဲမည့် ကုန်ကြမ်းအမျိုးအစားများကို ထည့်သွင်း ဖော်ပြခြင်း မရှိသဖြင့် ပြည်ပမှ တစ်ဝက်တစ်ပျက် ကုန်ချောများကိုသာတင်သွင်းပြီး ပြည်တွင်းတွင်တပ်ဆင်ရုံသာ မဖြစ်ပေါ်စေရန် ပြည်တွင်း၊ ပြည်ပမှသုံးစွဲမည့် ကုန်ပစ္စည်းများကို တိကျစွာ ဖော်ပြသင့်ကြောင်း၊ ပြည်ပသို့ ပြန်လည်တင်ပို့ရောင်းချနိုင်ရန် စီစဉ်ထားသည် ဟု ဖော်ပြထားပြီး နှစ်စဉ်စုစုပေါင်း မော်တော်ယာဉ်စီးရေ ၂၀၀ ခန့်အထိ ထုတ်လုပ်ရန် ရည်ရွယ်ထားကြောင်း ဖော်ပြထားရာ နှစ်စဉ်ထုတ်လုပ်မှု၏ ရာခိုင်နှုန်းမည်မျှကို ပြန်လည် တင်ပို့သွားမည်ဟု တိကျစွာ ဖော်ပြ၍ ဆောင်ရွက်သင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားခြင်းအပေါ် **ကုမ္ပဏီမှ အလုပ်ခန့်ထားမှု သဘောတူစာချုပ်ကို ချုပ်ဆိုမည် ဖြစ်ကြောင်း၊ ကုန်ကြမ်းအမျိုးအစားများကို ထည့်သွင်းဖော်ပြပြီး ဖြစ်ကြောင်းနှင့် ပြည်ပသို့ ပြန်လည်တင်ပို့ရောင်းချရန် အစီအစဉ်ရှိကြောင်း တင်ပြထားပါသည်။** **နောက်ဆက်တွဲ(င)**

၁၁။ မြန်မာမော်တော်ယာဉ်ကော်ပိုရေးရှင်း အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်၏ ငွေကြေးအထောက်အထားအဖြစ် ကမ္ဘောဇရတနာဘဏ်တွင် ၄-၂-၂၀၁၆ ရက်စွဲဖြင့် ကျပ် ၁,၁၀၀,၀၅၈,၇၀၀ ရှိကြောင်း အထောက်အထား တင်ပြထားပါသည်။ မြန်မာမော်တာ ကော်ပိုရေးရှင်း အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်သည် ၂၀၁၂ ခုနှစ် စက်တင်ဘာလ ၁၃ရက်နေ့တွင် မှတ်ပုံတင်အမှတ်-၂၄၂၃/၂၀၁၂-၂၀၁၃ ဖြင့် ကုမ္ပဏီမှတ်ပုံတင်ထားကြောင်း အထောက်အထား၊ ၂၀၁၃ ခုနှစ် ဇန်နဝါရီလ ၁၁ ရက်နေ့တွင် အမှတ် ၁၈/၂၀၁၂-၂၀၁၃ ဖြင့် လုပ်ငန်းစတင် ဆောင်ရွက်ခွင့်လက်မှတ်ရရှိထားသည့် အထောက်အထားများအား တင်ပြထားပါသည်။

၁၂။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများဖြင့်သာ ဖွဲ့စည်းတည်ထောင်ထားသော ကုမ္ပဏီဖြစ်ပြီး နိုင်ငံခြားမှ မည်သူမှ ပိုင်ဆိုင်မှုမရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်မည်ကြောင်း၊ စက်ရုံကိုမီးအာမခံထားရှိမည်ဖြစ်ကြောင်း နှင့် မီးဘေးလုံခြုံရေး စီမံချက်များကို ရေးဆွဲတင်ပြထားပါသည်။ ထို့အပြင် ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်နှင့် တစ်နှစ်လျှင် လစာဝင်ငွေ ကျပ်သိန်း (၄၈)နှင့် အထက်ရရှိသော ဝန်ထမ်းများအတွက် ဝင်ငွေခွန်ပေးဆောင်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ မြန်မာမော်တော်ယာဉ်ကော်ပိုရေးရှင်း အများနှင့်သက်ဆိုင်သော ကုမ္ပဏီလီမိတက်မှ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းအစီအစဉ်များ စောင့်ကြည့်လေ့လာမည့် လုပ်ငန်းများအတွက် ကျန်းမာရေး၊ လူမှုရေးစသည့် ကိစ္စရပ်များတွင် သုံးစွဲနိုင်ရန်အတွက်

နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂% ကို Corporate Social Responsibility အဖြစ် အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် အောက်တိုဘာလ ၅ ရက်နေ့တွင် ကျင်းပသော (၃၆/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၅။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ ပုဒ်မ၂၀(က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည၊ ဠ) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါမည်။

၁၆။ **စိစစ်တင်ပြချက်**

(က) မြန်မာမော်တော်ယာဉ်ကော်ပိုရေးရှင်း အများနှင့် သက်ဆိုင်သော ကုမ္ပဏီလီမိတက်အား MAN အမှတ်တံဆိပ်မော်တော်ယာဉ်များ ထုတ်လုပ်ရန် ထိုင်းနိုင်ငံရှိ MAN Truck & Bus Asia Pacific Co., Ltd. မှ ခွင့်ပြုကြောင်း ၂၄-၁၂-၂၀၁၅ ရက်စွဲဖြင့် Authorization Letter အား တင်ပြထားပါသည်။

(ခ) မော်တော်ယာဉ်ထုတ်လုပ်ရေးအတွက် လိုအပ်သော အစိတ်အပိုင်းများ တင်သွင်းနိုင်ရေးအတွက် စင်ကာပူသမ္မတနိုင်ငံမှ Singapore Technologies Kinetics Ltd.နှင့် မြန်မာမော်တော်ယာဉ်ကော်ပိုရေးရှင်း အများနှင့် သက်ဆိုင်သော ကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုထားသည့် Dealership Contract တို့အား တင်ပြထားပါသည်။

(ဂ) Dealership Contract တွင် စင်ကာပူသမ္မတနိုင်ငံမှ Singapore Technologies Kinetics Ltd. မှ ကုန်ကြမ်းတင်ပို့သူအဖြစ် ဆောင်ရွက်ပြီး မြန်မာမော်တော်ယာဉ်ကော်ပိုရေးရှင်း အများနှင့် သက်ဆိုင်သော ကုမ္ပဏီလီမိတက်မှ တင်သွင်းသူအဖြစ် ဆောင်ရွက်မည်ဖြစ်ပါသည်။

(ဃ) မြန်မာမော်တော်ယာဉ် ကော်ပိုရေးရှင်း အများနှင့်သက်ဆိုင်သော ကုမ္ပဏီ လီမိတက်သည် Bare Chassis များအား တင်သွင်းပြီး Coach Bus နှင့် City Bus မော်တော်ယာဉ် ကိုယ်ထည် များကို Bare Chassis (Body Building) စနစ်ဖြင့် တပ်ဆင်ထုတ်လုပ်မည် ဖြစ်ပါသည်။ CKD, SKD စနစ်ဖြင့် ထုတ်လုပ်ခြင်း မဟုတ်ဘဲ Bare Chassis စနစ်ဖြင့်သာ ထုတ်လုပ်မည်ဖြစ်ပါသည်။

(င) MAN Truck & Bus Asia Pacific Co., Ltd. ကုမ္ပဏီအနေဖြင့် Body Building တည်ဆောက်ပြီးနောက် Bus အပြင် Fuel Tanker, Water Tanker, Dump

Truck, Cement Mixer, Fire Fighting Trucks and Compactor စသည်တို့အားထုတ်လုပ်ခွင့်ပြုထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ မြန်မာမော်တော်ယာဉ် ကော်ပိုရေးရှင်း အများနှင့် သက်ဆိုင်သော ကုမ္ပဏီလီမိတက်၏ Coach Bus, City Bus မော်တော်ယာဉ် ကိုယ်ထည်ထုတ်လုပ်တပ်ဆင်ရောင်းချခြင်း (Body Building) လုပ်ငန်းအဆိုပြုချက် နှင့်စပ်လျဉ်း၍ အောက်ပါတို့ကို ဆုံးဖြတ်နိုင်ရန်ဖြစ်ပါသည်-

(က) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် သဘောတူ-မတူ။

(ခ) ပြည်ပမှတင်သွင်းလာမည့် Bare Chassis များအပေါ် အခွန်ကင်းလွတ် ခွင့်ပြုရန် သင့်-မသင့်။

ဥက္ကဋ္ဌ(ကိုယ်စား)

(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဩဂုတ် လ ၁၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၇. ၄. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရက-၃/မ-၁၂၇၁/၂၀၁၆(၉၆၄)

၁။ Myanmar Motor Corporation Public Co.,Ltd. မှ ရန်ကုန်တိုင်းဒေသကြီး မြောက်ဥက္ကလာပ မြို့နယ်၊ ရန်ကုန်စက်မှုဇုန်၊ မြေကွက်အမှတ်(၈)ရှိ မြေဧရိယာ(၁. ၉၉၉)ဧက (၈၀၈၉. ၆၇၃စတုရန်းမီတာ)နှင့် ရွှေပေါက်ကံစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၁၈)ရှိ မြေကွက်အမှတ်-၂၃၂/င၂ ရှိ မြေဧရိယာ (၁. ၂၂၇)ဧက (၄၉၆၅. ၄၉၇စတုရန်းမီတာ)၊ စုစုပေါင်းမြေ (၃. ၂၂၆)ဧက၊ (၁၃၀၅၅. ၁၇၀စတုရန်းမီတာ)ပေါ်ရှိ အဆောက်အဦတွင် Coach Bus, City Bus မော်တော်ယာဉ်များ တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ကုန်ကြမ်း ၁၀၀% တင်သွင်းမှုကို နိုင်ငံခြားငွေဖြင့် ဝယ်ယူရမည် ဖြစ်ပြီး ထွက်ရှိသည့် ကုန်ချောအားလုံးကို ပြည်တွင်း၌ "ကျပ်"ငွေဖြင့်သာ ရောင်းချမည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရ သဖြင့် နိုင်ငံခြားငွေ ပြည်ပသို့ စီးထွက်မှုဖြစ်ပေါ်နေမည်ဖြစ်ပါသည်။ ထို့ကြောင့် ပြန်လည်သုံးသပ်ရန် သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(နော်ပန်းသဉ္ဇာမျိုး၊ တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး)

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Myanmar Motor Corporation Public Co.,Ltd.
လက်ခံစာတွဲ/မျှောစာတွဲ

M-777
9/5/2016



ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊၀၀၁/ MIC(OSS) /၀၁( ၁၅၂ /၁၆ )
ရက် စွဲ၊၂၀၁၆ခုနှစ် မေ လ ၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Myanmar Motor Corporation Public Co.,Ltd မှ Coach Bus, City Bus မော်တော်ယာဉ်များ တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၆-၄-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၃/ မ-၁၂၇၁/ ၂၀၁၆(၅၅၆-ဃ)

၁။ Myanmar Motor Corporation Public Co.,Ltd မှ ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်စက်မှုဇုန်၊ မြေကွက်အမှတ်(၈)ရှိမြေဧရိယာ၁.၉၉၉ဧက(၈၀၈၉.၆၇၃ စတုရန်းမီတာ)နှင့် မြောက်ဥက္ကလာပမြို့နယ်၊ ရွှေပေါက်ကံစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၁၈၊ မြေကွက်အမှတ်-၂၃၂/င ရှိ မြေဧရိယာ ၁.၂၂၇ဧက(၄၉၆၅.၄၉၇စတုရန်းမီတာ)စုစုပေါင်း မြေ(၃.၂၂၆) ဧက(၁၃၀၅၅.၁၇၀စတုရန်းမီတာ)ပေါ်ရှိ အဆောက်အဦတွင် Coach Bus, City Bus မော်တော်ယာဉ်များ တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီးသဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသောအဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလ(၁၀)နှစ်ဖြစ်ပြီးတည်ဆောက်ရေးကာလမှာ(၁)နှစ်ဖြစ်ကြောင်း၊ မီးဘေးလုံခြုံရေးစီမံချက်၊ ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်များကိုလည်းထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ၏(၁%)ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု( Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ သဘာဝပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်

ချက်အနေဖြင့် E-Guard Environmental Services Co.,Ltd နှင့်ဆောင်ရွက်လျက်ရှိပြီး IEE (သို့မဟုတ်) EIA အစီရင်ခံစာအားတင်ပြသွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ Myanmar Motor Corporation Public Co.,Ltd မှ Coach Bus, City Bus မော်တော်ယာဉ်များတပ်ဆင်ထုတ်လုပ်ရာတွင် အစိတ်အပိုင်းများအား ပြည်ပမှ မှာယူတင်သွင်းပြီး စက်ရုံ၌ တပ်ဆင်ခြင်းလုပ်ငန်းများကို ဆောင်ရွက်မည်ဖြစ်ပြီး၊ အဆိုပါလုပ်ငန်းများဆောင်ရွက်မှုကြောင့် အသံဆူညံခြင်း၊ ဂဟေဆော်ခြင်းနှင့်စက်ကိရိယာပစ္စည်းများမှ ထွက်ရှိလာမည့်အခိုး၊ အငွေ့၊ အနံ့အသက်များနှင့် ဆေးမှုတ်ခြင်းလုပ်ငန်းများမှထွက်ရှိလာမည့် အနံ့အသက်များကြောင့် လေထုညစ်ညမ်းခြင်းနှင့်ပတ်ဝန်းကျင်ပြည်သူလူထုအား အနှောက်အယှက်ဖြစ်စေခြင်း၊ အလုပ်သမားများအား မျက်စေ့နှင့်အသက်ရှူလမ်းကြောင်းဆိုင်ရာရောဂါများ ဖြစ်ပေါ်လာနိုင်စေခြင်း၊ အလုပ်ရုံမှထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများဖြစ်သော စွန့်ပစ်အရည်/ အစိုင်အခဲများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းစေနိုင်ခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Myanmar Motor Corporation Public Co.,Ltd မှ Coach Bus, City Bus မော်တော်ယာဉ်များတပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိုစွနှင့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့်နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာအကျိုးပြုလုပ်ငန်းများတာဝန်ခံဆောင်ရွက်မှု( Corporate Social Responsibility–CSR )အတွက် အသားတင်အမြတ်ငွေ၏ (၁%)အား အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအားလိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး( သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း**

(Initial Environmental Examination- IEE)ကိုဆောင်ရွက်ပြီးပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များအတိုင်း အစီရင်ခံစာရေးသားတင်ပြရန်နှင့် ဝန်ကြီးဌာနမှလိုအပ်ပါက **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း**(Environmental Impact Assessment-EIA)ကို ဆက်လက်ဆောင်ရွက်ရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမဖြစ်ပေါ်စေရေး(သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Manangement Plan – EMP )ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီလိုက်နာဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

M. 845
19/5

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၁-စမ(၂)၂၀၁၆-၂၀၁၇ (၃၃၀)
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ မေလ ၁၆ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**
ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၇.၄.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၃/ မ-၁၂၇၁/ ၂၀၁၆ (၅၆၅)

၁။ Myanmar Motor Corporation Public Co., Ltd. မှ နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်စက်မှုဇုန်၊ မြေကွက်အမှတ်(၈)နှင့် ရွှေပေါက်ကံစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၁၈)၊ မြေကွက်အမှတ်(၂၃၂/င^၂)တွင် Coach Bus, City Bus မော်တော်ယာဉ်များ တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Coach Bus, City Bus မော်တော်ယာဉ်များ တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မော်တော်ယာဉ် ဥပဒေနှင့်အညီ လိုက်နာရန် လိုအပ်ပါသည်။

(ဃ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှုအစီအမံ(CSR)အတွက် လုပ်ငန်းမှရရှိသော အသားတင်အမြတ်ငွေ၏ ၁% သုံးစွဲရန် လိုအပ်ပါသည်။

(င) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(စ) ဂျာမနီနိုင်ငံနည်းပညာဖြင့် ထုတ်ကုန်နှစ်မျိုးဖြစ်သည့် Coach Bus(48 seaters) နှင့် City Bus (25-30 seaters)အား ပထမနှစ်တွင် (၁၀၀)စီးနှင့် ဆယ်နှစ်မြောက်တွင် (၂၀၀)စီး နှစ်အလိုက် တိုးမြှင့်ထုတ်လုပ်သွားမည်ဖြစ်ပါသည်။

(ဆ) Coach Bus, City Bus စသည့် Vehicle များကို နိုင်ငံခြားမှ MAN Bus and Truck ကုန်ပစ္စည်းများ၊ အခြားကုန်ကြမ်းများ၊ နည်းပညာများရယူ၍ ပြည်တွင်း၌ မော်တော်ယာဉ်ကိုယ်ထည် (Body Building) တပ်ဆင်ထုတ်လုပ်မှုလုပ်ငန်း ဆောင် ရွက်မည်ဖြစ်ပါသည်။

(ဇ) ထုတ်ကုန်ပစ္စည်းတစ်မျိုးစီအတွက် ကုန်ကြမ်းပစ္စည်းတွင် အုပ်စု(၁၃)ခုဖြင့် (၇၇၄) မျိုးစီ လိုအပ်ချက်ဖော်ပြထားပြီး ထုတ်လုပ်မှုနည်းစနစ်တွင် (SKD, CKD) စနစ်များ ထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်။

(ဈ) Local Market အတွက် Coach Bus နှင့် City Bus ထုတ်လုပ်မှုတွင် Bare Chassis, Body Parts နှင့် Accessories ဟု ဖော်ပြထားပြီး နောက်တွင် ဖော်ပြထားသော Raw Material List တွင် Item (၇၇၄)မျိုးစီ ခွဲခြားဖော်ပြထားရာ အဆိုပါ Material များကို အသုံးပြု၍ ထုတ်လုပ်မည်ဖြစ်ပါသည်။

(ည) စက်ပစ္စည်းများ၏ Main Specification များ၊ လိုအပ်သော Equipment များနှင့် Main Factory တွင် ထုတ်လုပ်မည့်နည်းစဉ်အရ ၎င်းစက်ပစ္စည်းများ၏ Machine Layout များ ဖော်ပြရန် လိုအပ်ပါသည်။

(ဋ) မော်တော်ယာဉ်ထုတ်လုပ်ရာတွင် စံချိန်စံညွှန်း၊ Road Safety စသည့်အချက်များကို ထည့်သွင်းစဉ်းစားရန်နှင့် မော်တော်ယာဉ်ကို တပ်ဆင်ထုတ်လုပ်မည့်ပုံစံအား တိတိကျကျဖော်ပြရန် လိုအပ်ပါသည်။

(ဌ) Bus ထုတ်လုပ်မည်ဖြစ်၍ အမိုး၊ ဘေးအကာများ ရေလုံ/မလုံ စမ်းသပ်ရန်နှင့် Performance Test များ ပြုလုပ်ရန် Testing Equipment များ လိုအပ်ပါသည်။

(ဍ) Stability ကို ဦးစားပေး၍ Quality Control အတွက် ဆောင်ရွက်မည့် နည်းလမ်းများ ထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်။

(ၿ) MAN ကုမ္ပဏီအနေဖြင့် Body Building တည်ဆောက်ပြီးနောက် Bus အပြင် Fuel Tanker, Water Bowser, Dump Truck, Cement Mixer, Fire Fighting Trucks and Compactor စသည်တို့အား ထုတ်လုပ်ခွင့်ပြုထားကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဏ) MAN Truck & Bus Asia Pacific Co.,Ltd. နှင့် Authorization and Confirmation Letter ရရှိထားပြီး MAN Dealer Contract ချုပ်ဆိုထားကြောင်း တွေ့ရှိရပါသည်။

(တ) Consultant (၁)ဦးနှင့် Technician (၃)ဦးမှလွဲ၍ ကျန်ဝန်ထမ်း(၁၉၆)ဦးအား ပြည်တွင်းတွင် ခန့်အပ်ဆောင်ရွက်မည်ဖြစ်၍ အလုပ်အကိုင်အခွင့်အလမ်းနှင့် နည်းပညာသစ်များ ရရှိလာနိုင်မည်ဖြစ်ပါသည်။

၃။ သို့ပါ၍ Myanmar Motor Corporation Public Co., Ltd. မှ Coach Bus, City Bus မော်တော်ယာဉ်များ တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၁၆.၅.၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

အမှတ်(၁)အကြီးစားစက်မှုလုပ်ငန်း

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်

☎ ၉၅-၁-၆၅၈၁၂၈
🖷 ၉၅-၁-၆၅၈၁၄၁

စာအမှတ်၊မရက- ၃/မ-၁၂၇၁/၂၀၁၆( ၈၄၄-၁ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ဇွန် လ ၃၀ ရက်

M-1002
1/7/16

**အဆိုပြုလွှာအပေါ်ထပ်မံစိစစ်ချက်**

Myanmar Motor Corporation Public Co., Ltd. မှ Coach Bus, City Bus မော်တော်ယာဉ်များ တပ်ဆင်ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းအတွက် ပေးပို့ခဲ့သောလုပ်ငန်းနှင့် စပ်လျဉ်း၍ ကုမ္ပဏီသည် ဌာနများ၏ လမ်းညွှန် ချက်နှင့်အညီ ပြန်လည် ပြင်ဆင်တင်ပြလာပါသဖြင့် ၎င်းပြင်ဆင်ချက်ကို အောက်ပါဇယားတွင် စိစစ်မှတ်ချက်ပြုပေးနိုင်ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၃၀-၆-၂၀၁၆
အတွင်းရေးမှူး(ကိုယ်စား)
(စန်းစန်းမြင့်၊ ညွှန်ကြားရေးမှူး)

| စဉ် | ဌာန | စိစစ်သူ | | စိစစ်ဆောင်ရွက်ချက် | လက်မှတ် |
|---|---|---|---|---|---|
| | | အမည် | ရာထူး | | |
| ၁ | စက်မှုဝန်ကြီးဌာန | (တင်ဝင်း) | လက်ထောက်အတွင်းဝန် (ညွှန်ကြားရေးမှူး) စက်မှုဝန်ကြီးဌာန | လက်ခံနိုင်ပါသည်/ ပြန်လည်စိစစ်ရန် လိုအပ်ပါသည်/ လက်မခံနိုင်ပါ | [signature] |
| ၂ | အမှတ်(၁)အကြီးစား စက်မှုလုပ်ငန်း | [handwritten] | [handwritten] | လက်ခံနိုင်ပါသည်/ ပြန်လည်စိစစ်ရန် လိုအပ်ပါသည်/ လက်မခံနိုင်ပါ | [signature] |

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်

☎ ၉၅-၁-၆၅၈၁၂၈
🖷 ၉၅-၁-၆၅၈၁၄၁

စာအမှတ်၊မရက- ၃/မ-၁၂၇၁/၂၀၁၆( ၈၄၄-၁ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ဇွန် လ ၂၀ ရက်

## အဆိုပြုလွှာအပေါ် ထပ်မံစိစစ်ချက်

Myanmar Motor Corporation Public Co., Ltd. မှ Coach Bus, City Bus မော်တော်ယာဉ်များ တပ်ဆင်ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းအတွက် ပေးပို့ခဲ့သောလုပ်ငန်းနှင့် စပ်လျဉ်း၍ ကုမ္ပဏီသည် ဌာနများ၏ လမ်းညွှန် ချက်နှင့်အညီ ပြန်လည် ပြင်ဆင်တင်ပြလာပါသဖြင့် ၎င်းပြင်ဆင်ချက်ကို အောက်ပါဇယားတွင် စိစစ်မှတ်ချက်ပြုပေးနိုင်ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၂၀-၆-၂၀၁၆
အတွင်းရေးမှူး(ကိုယ်စား)
(စန်းစန်းမြင့်၊ ညွှန်ကြားရေးမှူး)

| စဉ် | ဌာန | စိစစ်သူ | | စိစစ်ဆောင်ရွက်ချက် | လက်မှတ် |
|---|---|---|---|---|---|
| | | အမည် | ရာထူး | | |
| ၁ | စက်မှုဝန်ကြီးဌာန | | | လက်ခံနိုင်ပါသည်/<br>ပြန်လည်စိစစ်ရန်<br>လိုအပ်ပါသည်/<br>လက်မခံနိုင်ပါ | |
| ၂ | အမှတ်(၁)အကြီးစား<br>စက်မှုလုပ်ငန်း | | | လက်ခံနိုင်ပါသည်/<br>ပြန်လည်စိစစ်ရန်<br>လိုအပ်ပါသည်/<br>လက်မခံနိုင်ပါ | |

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

NPT - 1631
5.5.16

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊ ရထ-၂/မလ(အထွေထွေ)/၂၀၁၆(၁၀၁၁)
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ မေလ ၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားပြန်ကြားခြင်းကိစ္စ</u>

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၂၀၁၆ ခုနှစ်၊ ဧပြီလ(၇)ရက်စွဲပါစာအမှတ်၊ ရက-၃/မ-၁၂၇၁/၆(၅၆၇)

၁။ Myanmar Motor Corporation Public Co., Ltd မှ ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ဥက္ကလာပမြို့နယ်၊ ရန်ကုန်စက်မှုဇုန်၊ မြေကွက်အမှတ်(၈)ရှိ မြေဧရိယာ (၁.၉၉၉)ဧက(၈၀၈၉.၆၇၃ စတုရန်းမီတာ)နှင့် ရွှေပေါက်ကံစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၁၈၊ မြေကွက်အမှတ်(၂၃၂/င၂)ရှိ မြေဧရိယာ(၁.၂၂၇)ဧက(၄၉၆၅.၄၉၇ စတုရန်းမီတာ)၊ စုစုပေါင်းမြေဧရိယာ(၃.၂၂၆)ဧက (၁၃၀၅၅.၁၇၀ စတုရန်းမီတာ)ပေါ်ရှိ အဆောက်အဦတွင် Coach Bus, City Bus မော်တော်ယာဉ်များ တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၇)၊ အပိုဒ်(၁၁)ပါ ပြဋ္ဌာန်းချက်များအရ သဘောထားမှတ်ချက်စိစစ်ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ မော်တော်ယာဉ်များအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံအတွင်း တပ်ဆင်ထုတ်လုပ်မှုပြုလုပ်ရာတွင် အောက်ဖော်ပြပါသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ရမည် ဖြစ်ပါသည်-

(က) ASEAN Motor Vehicle Requirement Standard၊(<u>ပူးတွဲ-က</u>။)

(ခ) City Bus ယာဉ်များဖြစ်ပါက ပတ်သက်သည့် "ညွှန်ကြားချက်အမှတ်-၃၀/၂၀၁၄"၊ (<u>ပူးတွဲ-ခ</u>။)

(ဂ) ခရီးသည်တင်ယာဉ်များအတွက် သတ်မှတ်ချက်များ၊ (<u>ပူးတွဲ-ဂ</u>။)

(ဃ) ၁၉၈၉ ခုနှစ်၊ မော်တော်ယာဉ်နည်းဥပဒေများပါ ပြဋ္ဌာန်းချက်များအရ မြန်မာနိုင်ငံသည် လက်ယာကပ်မောင်းစနစ် ကျင့်သုံးပါသဖြင့် Road Safety ဖြစ်စေရန် ယာဉ်ကြောစနစ်အရ လိုက်လျောညီထွေဖြစ်စေမည့် လက်ဝဲဘက်မောင်း(Left Hand Drive) ယာဉ်များသာ ထုတ်လုပ်ရန်၊

(င) ထုတ်လုပ်မည့် မော်တော်ယာဉ်၏ အမျိုးအမည်၊ အမျိုးအစား၊ Model အတွက် ပုံစံအတည်ပြုသတ်မှတ်ချက်ရရှိပြီးဖြစ်ရမည်၊ ထုတ်လုပ်မည့် ခရီးသည်တင်ယာဉ်နှင့်ပတ်သက်သည့် Specification များ ပြည့်စုံစွာ ဖော်ပြရန်၊

(စ) အများပြည်သူဆိုင်ရာလမ်းများပေါ်တွင် အန္တရာယ်ကင်းပြီး လုံခြုံစိတ်ချစွာ မောင်းနှင်အသုံးပြုနိုင်ရေးအတွက် မော်တော်ယာဉ်စမ်းသပ်စစ်ဆေးသည့် အလုပ်ရုံ(Vehicle Testing Workshop)တွင်ရှိသော Test Lane ဖြင့် ယာဉ်ကြံ့ခိုင်မှုစစ်ဆေးပြီး အောင်မြင်မှသာလျှင် ဈေးကွက်အတွင်းသို့ ဖြန့်ဖြူးရောင်းချရန်။

၃။ ထို့အပြင် ပူးတွဲပေးပို့လာသော Myanmar Motor Corporation Public Co., Ltd မှ Coach Bus, City Bus မော်တော်ယာဉ်များ တပ်ဆင်ထုတ်လုပ်မှုလုပ်ငန်းအဆင့်များ၏ အထောက်အထားများ စိစစ်တွေ့ရှိချက်အရ ကန့်ကွက်ရန်မရှိပါကြောင်းနှင့် အဆိုပါယာဉ်များအား အမှန်တကယ်ထုတ်လုပ်ချိန်တွင် မှတ်ပုံတင်ပြုလုပ်ပေးနိုင်ရန်အတွက် အောက်ပါအချက်များ လိုအပ်မည်ဖြစ်ပါကြောင်း ဖော်ပြပြန်ကြားအပ်ပါသည်-

(က) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ထုတ်လုပ်ခွင့်ပြုထားသော Brand Model အလိုက် ထုတ်လုပ်ခွင့်ပြုသည့် အရေအတွက် ဖော်ပြထားသော အထောက်အထား၊

(ခ) အဆိုပါ Coach Bus, City Bus မော်တော်ယာဉ်များ ထုတ်လုပ်သော မူရင်း(နိုင်ငံခြား)ကုမ္ပဏီ တည်ရှိသည့်နိုင်ငံမှ အဆိုပါမော်တော်ယာဉ်များ တပ်ဆင်ထုတ်လုပ်ခွင့်ပြုထားသော အထောက်အထား၊(Letter of Authorization၊ Type Certificate။)

(ဂ) အဆိုပါ Coach Bus, City Bus မော်တော်ယာဉ်များ ထုတ်လုပ်သော မူရင်း(နိုင်ငံခြား)ကုမ္ပဏီမှ ယခု ပြည်တွင်း၌ တပ်ဆင်ထုတ်လုပ်ရန်တင်ပြထားသော Myanmar Motor Corporation Public Co., Ltd အား အဆိုပါ မော်တော်ယာဉ်များကို CKD(သို့မဟုတ်)SKD ဖြင့် ထုတ်လုပ်ခွင့်ပြုထားသော အထောက်အထား၊

(ဃ) ထုတ်လုပ်ပြီးသော Coach Bus, City Bus မော်တော်ယာဉ်များ၏ Quality Control(QC)ပြုလုပ်မှုအား မူရင်း(နိုင်ငံခြား)ကုမ္ပဏီမှ QC နှင့် ပြည်တွင်း ကုမ္ပဏီ၏ QC တို့မှ ပူးတွဲတာဝန်ယူမည့် အထောက်အထား၊

(င) ထုတ်လုပ်ပြီးသော Coach Bus, City Bus မော်တော်ယာဉ်များအား မူရင်းကုမ္ပဏီမှ ထုတ်လုပ်သည့် မော်တော်ယာဉ်များဟု မှတ်ယူနိုင်ရေးအတွက် မူရင်းကုမ္ပဏီတွင် အဆိုပါအမျိုးအစားမော်တော်ယာဉ်များ ထုတ်လုပ်ပြီးသည့်အချိန်တွင် တပ်ဆင်ပေးသည့် Vehicle Identification Number(VIN) Plate တပ်ဆင်ပေးမည်ဖြစ်ကြောင်း အထောက်အထား။

(signature)

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဝင်းခန့် - အမြဲတမ်းအတွင်းဝန်

မိတ္တူ

- ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန

ပူးတွဲ(က)

# ASEAN MOTOR VEHICLE REQUIREMENT STANDARD

| No | SUB SUBJECT | STANDARD | REMARKS |
|---|---|---|---|
| 1. | Brake Minimum Efficiency %<br>a. Service brake<br>Passenger, Cargo car and Bus<br>1. GVW ≤ 3500 kg<br>2. GVW > 3500 kg | <br><br><br>60%<br>50% | |
| | b. Parking brake<br>1. Rigid vehicle<br><br>2. Trailer combination | <br>16% gradient<br>( up grade or down grade )<br>12% gradient<br>( up grade or down grade ) | |
| 2. | Side Slip ( m / km ) | -5 to +5 | |
| 3. | Horn ( dBA ) | 90 | |
| 4. | Overall Noise max (dBA) | 115 | |
| 5. | Main Lamp min (cd)<br>Light Alignment | 12000<br>Up : < 0<br>Down : < 2/100<br>Left : < 2/100<br>Right : < 2/100 R Lamp<br>< 1/100 L Lamp | |
| 6. | Min Turning Radius, max (m) | 12 | |
| 7. | Elevation Of Speedometer (%) | -10 to +50 | |
| 8. | Exhaust Emission (Smoke) | < 50% Bosch unit | |
| 9. | Depth Of Groove Of Tyre min (mm) | 1mm | |

## ASEAN MOTOR VEHICLE REQUIREMENT ON AXLE LOAD, WEIGHT & DIMENSION

| No | SUB SUBJECT | STANDARD | REMARKS |
|---|---|---|---|
| 1. | Axle Load | | |
| | Axle Load maximum | 10000 kg | |
| 2. | Vehicle Weight | | |
| | (a) Truck with 2 axles | 16000 kg | |
| | (b) Truck with 3 axles | 21000 kg | |
| | (c) Truck with 4 axles | 25000 kg | |
| | (d) Articulated Truck (max) | 38000 kg | |
| 3. | Dimension | | |
| | (a) Overall Length (max) | 12.2 m | |
| | (b) Overall Width (max) | 2.5 m | |
| | (c) Overall Height (max) | | |
| | Normal vehicle | 3.66 m | |
| | Container carrier | 4.6 m | |
| 4. | Rear Overhang | 60 % of Wheelbase | |

ပူးတွဲ(ခ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ရထားပို့ဆောင်ရေးဝန်ကြီးဌာန

ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန(ရုံးချုပ်)

နေပြည်တော်

စာအမှတ်၊ ကဥပ-၃၃၉(က)/ ၁၄ /၁၉၈၀

ရက်စွဲ ၊ ၂၀၁၄ခုနှစ်၊ ဩဂုတ် လ ၁၁ ရက်

" ညွှန်ကြားချက်- ၃၀ /၁၄ "

အကြောင်းအရာ။ **City Bus ယာဉ်များတွင် ရပ်စီးခရီးသည်ဦးရေသတ်မှတ်ခြင်းကိစ္စ**

၁။ ခရီးသည်ပို့ဆောင်ရေးလုပ်ငန်းသုံးမော်တော်ယာဉ်များပြည်ပမှတင်သွင်းလာရာတွင် မြို့တွင်းခရီးသည်ပို့ဆောင်ရေးလုပ်ငန်းအတွက် City Bus ယာဉ်များလည်းပါရှိရာ အချို့ယာဉ်များသည် မူလထုတ်လုပ်သူ၏ Catalogue တွင် Standing Capacity တိုက်ရိုက်ပါရှိသော်လည်း အချို့ယာဉ်များတွင် မပါရှိကြောင်း တွေ့ရှိရပါသည်။

၂။ ထို့ပြင် School Bus, Shuttle Bus စသည့်ယာဉ်များအားတင်သွင်းလာကြပြီး မြို့တွင်းခရီးသည်ပို့ဆောင်ရေးလုပ်ငန်းများတွင် City Bus ယာဉ်များကဲ့သို့ အသုံးပြုရန် ရည်ရွယ်လျှက် လူစီးထိုင်ခုံပုံစံအနေအထားများပြင်ဆင်ခြင်း၊ တက်/ဆင်းတံခါးပေါက် ဘယ်/ညာ ပြောင်းလဲခြင်းနှင့် CNG အိုးတပ်ဆင်လာခြင်းများစသဖြင့် ပြုပြင်ပြောင်းလဲခြင်းများလည်း တွေ့ရှိရပါသည်။ ထို့ကြောင့်ခရီးသည်များသက်တောင့်သက်သာနှင့် အန္တရာယ်ကင်းရှင်းစွာ သွားလာနိုင်ရန်အတွက် ရပ်စီးခရီးသည်အရေအတွက် Standing Capacity အားစနစ်တကျ သတ်မှတ်ပေးရန် လိုအပ်လာပါသည်။

၃။ သို့ပါ၍မြို့တွင်း ခရီးသည်ပို့ဆောင်ရေးလုပ်ငန်းသုံးယာဉ်များအတွက် ကနဦးမှတ်ပုံတင်ယာဉ်စစ်ဆေးရာတွင်ရပ်စီးခရီးသည်အရေအတွက် Standing Capacity အားအောက်ပါအတိုင်း သတ်မှတ်ပေးရန်ဖြစ်ပါသည်-

(က) Catalogue တွင်တိုက်ရိုက်တွေ့ရှိပါက Catalogue ပါအတိုင်းသတ်မှတ်ရန်၊

(ခ) Catalogue တွင်တိုက်ရိုက်မတွေ့ရှိသောယာဉ်များအတွက် ပူးတွဲ-၁ ပါကန့်သတ်ချက်များအရ Standing Area တိုင်းတာတွက်ချက်ရန်၊

(ဂ) တိုင်းတာတွက်ချက်၍ရသော Standing Area အားပူးတွဲ-၂ ပါပုံသေနည်းဖြင့် Standing Capacity တွက်ချက်ရန်၊

(ဃ) City Bus ယာဉ်များအား အများဆုံးခွင့်ပြုနိုင်သော Maximum Permissible Gross Vehicle Weight (GVW) အရ Standing Capacity သတ်မှတ်သည့် ပူးတွဲ(၃) ပါ ပုံသေနည်းဖြင့် Standees တွက်ချက်ရန်၊

(င) Standing Area အရတွက်ချက်၍ရသော Standing Capacity ရလဒ်နှင့် ထုတ်လုပ်သူ သတ်မှတ်ထားသော GVW အရတွက်ချက်သည့် Standees ရလဒ်တို့တွင် **နည်းသည့် အရေအတွက်** အား Standing Capacity သတ်မှတ်ပေးရန်၊

၄။ ဤစာကိုလက်ခံရရှိသည့်နေ့မှစ၍ တိကျစွာလိုက်နာဆောင်ရွက်ရန်ဖြစ်ပြီး လက်ခံရရှိကြောင်း နှင့် နားလည်သဘောပေါက်ကြောင်း ပြန်ကြားရန်ဖြစ်ပါသည်။

11/8/14

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)

( စိုးဝင်း၊အင်ဂျင်နီယာချုပ် )

၁။ ကနဦးယာဉ်စစ်ဆေးရေးဌာန(နေပြည်တော်၊ရန်ကုန်၊မန္တလေး)။

၂။ တာဝန်ခံအင်ဂျင်နီယာ၊

ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန၊

............ရုံး(...........)၊..............မြို့။

မိတ္တူကို-

(၁) ညွှန်ကြားရေးမှူးချုပ်(ရုံးအဖွဲ့)။

(၂) ညွှန်ကြားရေးမှူး(စီမံ၊ကမ၊ကဒ၊ဘဏ္ဍာရေး၊ကွန်ပျူတာ)။

(၃) အင်ဂျင်နီယာချုပ်။

(၄) ရုံးချုပ်ရှိဌာနခွဲများအားလုံး။

(၅) တိုင်းဒေသကြီး/ပြည်နယ်/ခရိုင်ဦးစီးမှူး၊

ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန၊

............ရုံး(...........)၊..............မြို့။

(၆) လက်ခံစာတွဲ။

Standing Area အတွက်ပါရှိရမည့်အချက်များနှင့်ကန့်သတ်ချက်များ

(က) မြို့တွင်းခရီးသည်ပို့ဆောင်ရေးသုံး Bus ယာဉ်ဖြစ်ရမည်၊

(ခ) လုံလောက်သောလက်ကိုင်တန်း၊လက်ကိုင်ကွင်းများပါရှိရမည်၊

(ဂ) ယာဉ်အတွင်းအလယ်လျှောက်လမ်းသည် 300mm (1′) ထက်မလျော့နည်းရ၊

(ဃ) ကြမ်းခင်းသည်ရေပြင်ညီဖြစ်ရမည်၊ဆင်ခြေလျှောဖြစ်ပါက ၈% (4.6 Degrees) ထက် မကျော်လွန်ရ၊

(င) ရပ်စီးခရီးသည်၏နေရာသည် အကျယ် 300mm (1′) နှင့် ကြမ်းခင်းမှမျက်နှာကျက်နေရာအထိ အမြင့် 1800mm (5′ 11″) ထက်မလျော့နည်းရ၊

(စ) ယာဉ်တွင်ရှိရမည့် စုစုပေါင်းအလေးချိန်သည်ထုတ်လုပ်သူသတ်မှတ်ထားသော GVW ထက် မကျော်လွန်စေရ၊

**Standing Area သတ်မှတ်တွက်ချက်ရာတွင် အကျုံးမဝင်သည့်ယာဉ်၏ကြမ်းခင်းဧရိယာများ-**

(က) ခရီးသည် ဝင်/ထွက်ပေါက်ရှိလှေခါးထစ်မှ 230mm( 9″)အတွင်းနေရာ၊

(ခ) CNG Gas အိုးများပါရှိလျှင် ထားရှိရာနေရာ၊

(ဂ) အရေးပေါ်ထွက်ပေါက်နေရာ၊

(ဃ) ယာဉ်မောင်းအတွက်သတ်မှတ်ထားသောဧရိယာ၊

(င) ထိုင်စီးခရီးသည်ထိုင်ခုံရှေ့မှ 200mm(8″)အတွင်းနေရာ၊

(စ) ခရီးသည်များရပ်စီးနိုင်သော်လည်း လျှောက်လမ်းဝင်ပေါက် (သို့မဟုတ်) ထွက်ပေါက်တို့နှင့် ဆက်စပ်မှုမရှိသည့်နေရာ ၊

(ဆ) ကြမ်းခင်းဧရိယာ 1′x1′ (300x300)mm ထက်လျော့နည်းသောနေရာ ၊

(ဇ) ယာဉ်အန္တရာယ်ဖြစ်စေနိုင်သောနေရာနှင့် အခြားအကြောင်းရင်းတစ်ခုကြောင့်ကန့်သတ်ထားသော နေရာများ၊ ( ဥပမာ- ယာဉ်မောင်းဘေးနှစ်ဖက်ရှိ ကန့်သတ်ဧရိယာ )

City Bus ယာဉ်များအတွက် အများဆုံးခွင့်ပြုနိုင်သော Standing Capacity တွက်ချက်သည့် ပုံသေနည်း-

$$\text{Standing Capacity} = \frac{\text{Standing Area}}{\text{Area of Standing Space (1 Person)}}$$

မှတ်ချက်။ - Area of Standing Space(1 Person)အား $0.14\ m^2$ သတ်မှတ်၍တွက်ချက်ရန်၊

- ယာဉ်တွင်ရှိရမည့် စုစုပေါင်းအလေးချိန်သည် ထုတ်လုပ်သူသတ်မှတ်ထားသော GVW ထက်မကျော်လွန်ရ၊

Attachment 1

## Passenger Standing Capacity
## Typical Floor Space Layout



City Bus ယာဉ်များအားအများဆုံးခွင့်ပြုနိုင်သော Maximum Permissible Gross Vehicle Weight (GVW)အရ Standing Capacity သတ်မှတ်သည့်ပုံသေနည်း

$$GVW = VW + PL\ (Sitting\ Capacity + Standing\ Capacity)$$

<u>နမူနာတွက်ချက်ခြင်း</u>

| | | |
|---|---|---|
| အမျိုးအမည် | = | HINO HT2 MPCA |
| အမျိုးအစား | = | City Bus ( 4 x 2 ) RHD |
| Catalogue အရ GVW | = | 13775 kg |
| Catalogue အရ VW | = | 9485 kg |

**Catalogue အရ**

Passenger seats = (49)P + ယာဉ်မောင်း (1)P + ယာဉ်အကူ (1)P = (51) P

Catalogue အရ Standing Capacity = (27) P

**ပုံသေနည်း အရ**

Standees = GVW - [ (VW) + (55kg x Passenger seats) ]

Standees = 13775 kg - [ (9485 kg) + (55kg x 51 P) ]

Standees = 13775 kg - 12290 kg

Standees = 1485 kg ÷ 55 kg

Standees = (27) P

ရှင်းလင်းချက်။ အထက်ပါပုံသေနည်းအရ တွက်ချက်၍ရသော Standees (27)P သည် Catalogue ပါ Standing Capacity (27)P နှင့် ကိုက်ညီမှုရှိကြောင်း တွေ့ရှိရပါသည်။

မှတ်ချက်။
- လူတစ်ဦး၏အလေးချိန်အား 55 kg သတ်မှတ်၍ တွက်ချက်ပါရန်၊
- ယာဉ်၏စုစုပေါင်းအလေးချိန်အားထုတ်လုပ်သူ သတ်မှတ်ထားသော GVW,VW ကိုရယူရန်နှင့် Passenger Seat အားထိုင်ခုံအရေအတွက်အရ တွက်ချက်တင်ပြရန်၊

တောင်းခံထားသော ငွေများအပေါ် အတိုး

၁၇။ အစုရှယ်ယာတစ်စုနှင့် စပ်လျဉ်း၍ တောင်းခံထားသော ငွေတစ်ရပ်ပေးခြင်း အတွက် သတ်မှတ်ထားသော နေ့ရက်မတိုင်မီ သော်လည်းကောင်း၊ ယင်းနေ့ရက်တွင်သော် လည်းကောင်း မပေးလျှင် အဆိုပါငွေကို ပေးရန်ရှိသောသူထံမှ အဆိုပါငွေအပေါ်တွင် တစ်နှစ်လျှင် ငါးရာခိုင်နှုန်း အတိုးကို အဆိုပါပေးခြင်းအတွက် သတ်မှတ်ထားသော နေ့ရက်မှ အမှန်တကယ် ပေးဆောင်သော နေ့အထိ ပေးရမည်။ သို့ရာတွင် ဒါရိုက်တာများသည် အဆိုပါ အတိုးငွေ အားလုံးကိုသော် လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော် လည်းကောင်း ပေးခြင်းမှကင်းလွတ်ခွင့်ပြုနိုင်ခွင့် ရှိစေရမည်။

**မပေးချေရသေးသည့်အစုရှယ်ယာများအတွက်အတိုး**

၁၈။ အတိုးပေးရန်နှင့်စပ်လျဉ်းသော ဤစည်းမျဉ်းများ၏သတ်မှတ်ချက်များသည် အစုရှယ်ယာ တစ်စုကို ထုတ်ပေးစဉ်ကတည်းက သတ်မှတ်ထားချက်များအရပေးရန် သတ်မှတ်ထားသော အချိန် ရောက်ရှိလာပြီး၊အစုရှယ်ယာ၏ပမာဏပေါ်မူတည်၍ဖြစ်စေ၊ ပရီမီယံကြေးပေးချေသည့် နည်းလမ်း အားဖြင့်ဖြစ်စေပေးချေရမည်ဖြစ်သော်လည်း မည်သည့်ငွေကြေးမျှ မပေးချေရသေးသည့် အစု ရှယ်ယာများ ကိစ္စတွင် ပေးချေရန် နို့တစ်စာဖြင့် နည်းလမ်းတကျ တောင်းခံမှု တစ်ရပ်ပြုပြီးဘိ သကဲ့ သို့ အကျိုးသက်ရောက်စေရမည်။

## သီးခြားစီစဉ်ပေးနိုင်သည့်အာဏာ

၁၉။ ဒါရိုက်တာများသည် အစုရှယ်ယာများ ထုတ်ပေးခြင်းနှင့်စပ်လျဉ်း၍ ပိုင်ဆိုင်သူတို့ အကြား ငွေပေးချေရန် ပမာဏနှင့် အကြိမ်များကို သီးခြားစီစဉ်ပေးနိုင်ခွင့်ရှိစေရမည်။

## ကြိုတင်ပေးငွေများအပေါ်အတိုး

၂၀။ မတောင်းခံရသေးသောနှင့် မပေးရသေးသော အစုရှယ်ယာများ ကိုင်ရှိထားသည့် အဖွဲ့ဝင်က ယင်းငွေ သို့မဟုတ် ယင်းတစ်စိတ်တစ်ဒေသကို ကြိုတင်ပေးထားလိုလျှင် ဒါရိုက်တာ လူကြီးများ သည် လက်ခံသင့်သည်ဟု ယူဆပါက ယင်းငွေများကို လက်ခံထားနိုင်သည်။ ယင်းကဲ့သို့ ကြိုတင် ပေးသည့် ငွေအားလုံးအပေါ် သို့မဟုတ် တစ်စိတ်တစ်ဒေသအပေါ် ထိုသို့ ကြိုတင်ငွေ ပေးထား သည့် အဖွဲ့ဝင်နှင့် ဒါရိုက်တာလူကြီးများ သဘောတူညီသည့် နှုန်းထားအတိုင်း ထိုငွေများအပေါ် အတိုးရရှိ နိုင်သည်။

## အစုရှယ်ယာများ လွှဲပြောင်းခြင်းနှင့် တစ်ဆင့်လွှဲပြောင်းခြင်း
## ပြီးမြောက်အောင်ဆောင်ရွက်ခြင်း

၂၁။ အစုရှယ်ယာတစ်စုစု၏ လွှဲပြောင်းရေးဆိုင်ရာ စာတမ်းကို လွှဲပြောင်းသူနှင့် လွှဲပြောင်းခြင်း ခံရသူနှစ်ဦးစလုံးက လက်မှတ်ရေးထိုး အတည်ပြုရမည့်အပြင်၊ လွှဲပြောင်းသူသည် အဖွဲ့ဝင်များ မှတ်ပုံတင် စာအုပ်တွင် အစုရှယ်ယာနှင့် စပ်လျဉ်း၍ လွှဲပြောင်းခြင်းခံရသူ၏ အမည်ကို ရေးသွင်း ပြီးသည်အထိ အစုရှယ်ယာပိုင်ဆိုင်သူအဖြစ် တည်ရှိသည်ဟုမှတ်ယူရမည်။

## လွှဲပြောင်းခြင်းပုံစံ

၂၂။ ကုမ္ပဏီ၏ အစုရှယ်ယာများ လွှဲပြောင်းရာတွင် အောက်ဖော်ပြပါ ပုံစံဖြင့်ဖြစ်စေ၊ ဒါရိုက်တာများ လက်ခံအတည်ပြုနိုင်သော သုံးစွဲနေကျ ရိုးရိုးပုံစံဖြင့်ဖြစ်စေ ပြုလုပ်ရမည်။

....................နေ၊ ကျွန်ုပ်.................................. သည်.........နေ၊ ................. (နောက်တွင် "လွှဲပြောင်းခြင်းခံရသူ" ဟုခေါ်တွင်စေရမည်)က ကျွန်ုပ်သို့ ကျပ် .....................ဖြစ်သော အဖိုးစားနားကို ပေးချေသည်ဖြစ်၍ ဤစာချုပ် မချုပ်ဆိုမီ တဆက်တည်းဖြစ်သောအချိန်တွင် အစုရှယ်ယာ(သို့မဟုတ်) ရှယ်ယာများကို ကျွန်ုပ်ပိုင်ဆိုင်ကြောင်း အတွက် စည်းကမ်းချက်များကို အထောက်အထားပြုပြီး လွှဲပြောင်းခြင်းခံရသူမှစ၍ ထိုသူ၏သေတမ်းစာအတည်ပြုသူများ အမွေထိန်းများနှင့် ပစ္စည်းလွှဲပြောင်းခံရသူများ ပိုင်ဆိုင်ကြစေရန် --------------------------- အများနှင့် သက်ဆိုင်သောကုမ္ပဏီလီမိတက်ဟု ခေါ်တွင်သည့်လုပ်ငန်းတွင် ပါဝင် ထားသည့် ကျွန်ုပ်ပိုင် အစုရှယ်ယာ (ရှယ်ယာများ) နံပါတ်................ မှ.............. အထိကို လွှဲပြောင်းခြင်းခံရသူ............သို့ ဤစာချုပ်စာတမ်းအားဖြင့် လွှဲပြောင်းပေးပါသည်။ ထို့အပြင် အဆိုပါ လွှဲပြောင်းပေးခြင်းခံရသူ ကျွန်ုပ်................ သည် ဆိုခဲ့သည့် စည်းကမ်းချက်များကို အထောက်အထားပြု၍ အဆိုပါ အစုရှယ်ယာ (သို့မဟုတ် ရှယ်ယာများ)ကို လွှဲပြောင်းခြင်းခံယူရန် သဘောတူပါသည်။

သက်သေအရာတည်စိမ့်သောငှာ.............ခုနှစ်၊ ................ လ.....ရက်နေ့တွင် လက်မှတ်ရေးထိုးကြပါသည်။

လက်မှတ်ရေးထိုးသည်ကို သိမြင်ပါသည်။

## မှတ်ပုံတင်ရန် ငြင်းပယ်နိုင်သည့် ဒါရိုက်တာများ၏အာဏာ

၂၃။ ဒါရိုက်တာများသည် အပြည့်အဝပေးချေခြင်း မရှိသေးသော အစုရှယ်ယာများကို ၎င်းတို့ မလိုလားသူသို့ လွှဲပြောင်းခြင်းကို ငြင်းဆိုနိုင်သကဲ့သို့ ကုမ္ပဏီ၌ တရားဝင် သိမ်းထားပိုင်ခွင့်ရှိသော အစုရှယ်ယာများလွှဲပြောင်းခြင်းကိုလည်း ငြင်းပယ်နိုင်သည်။ ဒါရိုက်တာများသည် နှစ်စဉ် သာမန် အထွေထွေ အစည်းအဝေးမကျင်းပမီ တစ်ဆယ့်လေးရက်ကာလအတွင်းတွင် လွှဲပြောင်းခြင်း မှတ်ပုံ တင်ရန်ကိုလည်း ဆိုင်းငံ့ထားနိုင်သည်။ ဒါရိုက်တာများသည် လွှဲပြောင်းခြင်းဆိုင်ရာ မည်သည့် စာချုပ် စာတမ်းတို့ကိုမဆို အောက်ပါအချက်များအတိုင်း လိုက်နာ ဆောင်ရွက်ရန် ပျက်ကွက်ခဲ့လျှင် အသိအမှတ်မပြုဘဲနေနိုင်သည်-

(က) **အစုရှယ်ယာလွှဲပြောင်းပေးဆောင်ခြင်း။** လွှဲပြောင်းခြင်း မှတ်ပုံတင်ရန် မှတ်ပုံတင်ခ သုံးဆယ်ကျပ်ထက်မပိုသော အခ ကြေးငွေကို ပေးဆောင်ရန်၊

(ခ) **အစုရှယ်ယာသက်သေခံ လက်မှတ်နှင့်အတူ လွှဲပြောင်းခြင်း စာတမ်းကို ပူးတွဲ တင်ပြခြင်း။** လွှဲပြောင်းပေးသူသည် အမှန်တကယ် လွှဲပြောင်းပေးနိုင်ခွင့်ရှိကြောင်းကို လွှဲပြောင်း ခြင်းစာတမ်းနှင့်အတူ ပူးတွဲ၍ ယင်းနှင့်သက်ဆိုင်သည့် အစုရှယ်ယာများ၏ သက်သေခံ လက်မှတ်အပြင် ဒါရိုက်တာများထံ တင်ပြရန်လိုအပ်သည့် အခြား သက်သေခံ ချက်များ ကိုလည်းတင်ပြရန်။

(ဂ) **လွှဲပြောင်းခြင်းကို ငြင်းပယ်သည့် ကိစ္စ။** အကယ်၍ ဒါရိုက်တာများသည် လွှဲပြောင်းခြင်း တစ်ခုကို မှတ်ပုံတင်ပေးရန် ငြင်းပယ်လျှင် ကုမ္ပဏီသို့ အစုရှယ်ယာလွှဲပြောင်းခြင်းကို တင်ပြသည့်နေ့မှ နှစ်လအတွင်း လွှဲပြောင်းပေးသူနှင့် လွှဲပြောင်းပေးခြင်း ခံရသူတို့ထံ ငြင်းပယ်ကြောင်း နို့တစ်စာပေးပို့ရမည်။

## အစုရှယ်ယာပိုင်ဆိုင်သူအဖြစ်မှတ်ပုံတင်ပြီးသူကိုသာအသိအမှတ်ပြုခြင်း

၂၄။ အစုရှယ်ယာ ပိုင်ဆိုင်သူအဖြစ် မှတ်ပုံတင်ပြီးသူကိုသာ ကုမ္ပဏီက အစုရှယ်ယာအပေါ် ပိုင်ဆိုင်ခွင့်ရှိသူအဖြစ်အသိအမှတ်ပြုရမည်။

## သေတမ်းစာအတည်ပြုသူများသို့မဟုတ် အမွေထိန်းစာရရှိသူများ အနေဖြင့် သေဆုံးသူ၏အစုရှယ်ယာ ပိုင်ဆိုင်ခွင့်

၂၅။ ကွယ်လွန်သည့်တစ်ဦးတည်းပိုင်ဆိုင်သည့်အစုရှယ်ယာပိုင်ရှင်၏ သေတမ်းစာ အတည်ပြုသူ နှင့် အမွေထိန်းသူတို့ကိုသာ ယင်းအစုရှယ်ယာ၏ ပိုင်ဆိုင်သူအဖြစ် ကုမ္ပဏီက လက်ခံမည် ဖြစ်သည်။ အကယ်၍ရှယ်ယာကို အမည်နှစ်ခု (သို့မဟုတ်) နှစ်ခုထက်ပို၍ အစုရှယ်ယာများကို မှတ်ပုံတင်ထား၍ တစ်ဦးသေဆုံးသွားပါကကျန်ရှိသူ သို့မဟုတ် ကျန်ရှိသူများသို့မဟုတ် ကျန်ရှိသူ၏ သေတမ်းစာ အတည်ပြုသူ သို့မဟုတ် အမွေထိန်းစာ ရရှိသူသာလျှင်သာ ယင်းအစုရှယ်ယာ ၏ ပိုင်ဆိုင်ခွင့်ရှိသူဖြစ်ကြောင်း ကုမ္ပဏီက အသိအမှတ်ပြုမည်။

### အစုရှယ်ယာတစ်စုကို ပိုင်ဆိုင်ခွင့်ရှိလာသူ

၂၆။ မည်သူမဆိုအစုရှယ်ယာတစ်စုကိုပိုင်ဆိုင်ခွင့်ရှိလာလျှင်ဒါရိုက်တာများက အခါအားလျော်စွာ တောင်းဆိုသော သက်သေအထောက်အထားများကို တင်ပြနိုင်မှသာလျှင် အဖွဲ့ဝင်အဖြစ် မှတ်ပုံတင်

ခြင်းခံယူခွင့်ရှိစေရမည် သို့မဟုတ် ထိုသူက မိမိကိုယ်တိုင် မှတ်ပုံတင်ခြင်း ခံယူမည့်အစား၊ ယင်းရှယ်ယာများကို သေဆုံးသူ သို့မဟုတ် လူမွဲအဖြစ်ခံယူသူက လွှဲပြောင်းပိုင်ခွင့်ရှိစဉ်က လွှဲပြောင်းနိုင်သကဲ့သို့ လွှဲပြောင်းနိုင်ခွင့်ရှိသည်။ သို့သော် ဒါရိုက်တာလူကြီးများသည် မည်သည့် ကိစ္စတွင်မဆို သေသူ သို့မဟုတ် လူမွဲခံယူသူ လွှဲပြောင်းခွင့်ရှိစဉ်က လျှောက်ထားသည့်အခါ မှတ်ပုံတင်ခြင်းကို ငြင်းပယ်ခြင်း သို့မဟုတ် ဆိုင်းငံ့ထားခြင်း ပြုလုပ်နိုင်သည်။

## မှတ်ပုံတင်မထားသော အစုရှယ်ယာများကိုကိုင်ဆောင်ထားသူ၏ အခွင့်အရေးများ

၂၇။ ပုဂ္ဂိုလ်တစ်ဦးသည် အစုရှယ်ယာတစ်စုကို အထက်ပါအတိုင်း ပိုင်ဆိုင်ခွင့်ရလာလျှင် ထိုသူသည် မူလမှတ်ပုံတင်ထားသူ ကိုယ်တိုင်ရရှိခဲ့သော အမြတ်ဝေစုများနှင့် အခြား အကျိုးခံစားခွင့်များကို ရရှိခွင့်ရှိစေရမည်။ သို့သော် ထိုသူသည် အဖွဲ့ဝင်အဖြစ် မှတ်ပုံတင်ခံရခြင်း မရရှိမီ ကုမ္ပဏီအစည်းအဝေးများနှင့် စပ်လျဉ်း၍ အဖွဲ့ဝင်များသို့ အပ်နှင်းထားသည့် မည်သည့် အခွင့်အရေး ကိုမျှ ရရှိခွင့် ရှိမည်မဟုတ်။

## အစုရှယ်ယာများသိမ်းယူခြင်း

### တောင်းခံခြင်းအတွက်ပေးဆပ်ရန် နို့တစ်စာ

၂၈။ အဖွဲ့ဝင်တစ်ဦးသည်တောင်းခံခြင်းတစ်ခုခုကိုဖြစ်စေ၊ တောင်းခံခြင်းတစ်ခု၏ အရစ်ကျပေးခြင်းကိုဖြစ်စေ၊ အဆိုပါပေးခြင်းကိုဖြစ်စေ၊ အဆိုပါပေးခြင်းအတွက်သတ်မှတ်ထားသော နေ့ရက်တွင် ပေးရန်ပျက်ကွက်လျှင် ဒါရိုက်တာများသည် ထိုသို့ဖြစ်ပြီးနောက် မည်သည့် အချိန်၌ မဆို၊ ယင်းတောင်းခံခြင်း၏ သို့မဟုတ် အရစ်ကျပေးခြင်း၏ အချို့အဝက်ကိုပေးရန် ကျန်ရှိနေသည့် အချိန်အတွင်းတွင် မပေးရသေးသော တောင်းခံခြင်းရှိသမျှကိုဖြစ်စေ၊ အရစ်ကျပေးခြင်း ရှိသမျှကိုဖြစ်စေကျသင့်သောအတိုးနှင့် တကွပေးဆပ်ရန် ဆင့်ဆိုသောနို့တစ်စာကို ထိုသူထံသို့ ချအပ်နိုင်သည်။

### ပေးသွင်းရန်အတွက် သတ်မှတ်သည့်အချိန်ဖော်ပြသည့်နို့တစ်စာ

၂၉။ နို့တစ်စာတွင် နေ့ရက်သတ်မှတ်၍ (နို့တစ်စာ ထုတ်ဆင့်သည့်နေ့မှ သတ်မှတ်ရက် ကုန်ဆုံးသောနေ့ သို့မဟုတ် တစ်ဆယ့်လေးရက်ထက်မစောသော) ယင်းနေ့ရက်ထက်စော၍ သော်လည်းကောင်း ထိုနေ့တွင်သော်လည်းကောင်း ငွေပေးချေရန် သတ်မှတ်ကြောင်း အကယ်၍ ပျက်ကွက်ပါက ယင်းပျက်ကွက်မှုအတွက် အဆိုပါ အစုရှယ်ယာများကို သိမ်းယူခြင်းခံရဖွယ် အကြောင်းရှိကြောင်း ဖော်ပြပါရှိရမည်။

### နို့တစ်စာပါ အချက်များကို မလိုက်နာ၍ သိမ်းယူခြင်း

၃၀။ မည်သည့်အဆိုပါ နို့တစ်စာပါ လိုအပ်ချက်များအတိုင်း လိုက်နာဆောင်ရွက်ခြင်း မရှိပါက ပေးအပ်ပြီးသောနို့တစ်စာက ရည်ညွှန်းသော မည်သည့် အစုရှယ်ယာများကိုမဆို နို့တစ်စာက ရည်ညွှန်းသော ငွေပေးချေရန်ကိစ္စနှင့် စပ်လျဉ်း၍ မပေးချေမီကာလအတွင်း မည်သည့် အချိန်၌မဆို ဒါရိုက်တာများ၏ အစည်းအဝေး ဆုံးဖြတ်ချက်တစ်ရပ်အရ သိမ်းယူနိုင်သည်။

## အခန်း(၄)

## အစုရှယ်ယာများကို စတော့(ရင်းနှီးပစ္စည်း) အဖြစ် ပြောင်းလဲခြင်း

### ရှယ်ယာများကို စတော့အဖြစ်ပြောင်းလဲခြင်းနှင့် ပြန်လည်ပြောင်းလဲခြင်း

၃၅။ ဤကုမ္ပဏီ၏ကြိုတင်ပြုလုပ်သော အထွေထွေအစည်းအဝေးမှ ခွင့်ပြုချက်ဖြင့် ဒါရိုက်တာလူကြီးများသည် အပြည့်ပေးအပ်ပြီးသည့် အစုရှယ်ယာများကို စတော့ခ် (ရင်းနှီးပစ္စည်း) အဖြစ်ပြောင်းလဲခွင့်ရှိသည်။ ထို့ပြင်ဒါရိုက်တာလူကြီးများသည် ထိုသို့သော ရရှိသည့် ခွင့်ပြုချက် ဖြင့်မည်သည့် စတော့ကိုမဆို အပြည့်ပေးအပ်ပြီးသည့် ရှယ်ယာအဖြစ် ပြန်လည်ပြောင်းလဲနိုင် သည်။

### စတော့ခ်လက်ကိုင်ပိုင်ရှိသူများကလွှဲပြောင်းခြင်း

၃၆။ စတော့ခ်လက်ကိုင် ပိုင်ဆိုင်သူတို့သည်၎င်းတို့၏ စတော့ခ် သို့မဟုတ် စတော့ခ်၏ တစ်စိတ်တစ်ဒေသကို တတ်နိုင်သရွေ့ အခြေအနေပေးသမျှယင်း စတော့ခ်များကို ရှယ်ယာမှ စတော့ခ်အဖြစ်မပေါ်ထွက်လာမီက ပြောင်းလွှဲရမည့် စည်းမျဉ်းများအရနှင့် အလားတူနည်းအတိုင်း ပြောင်းလွှဲနိုင်သည်။ သို့သော် ဒါရိုက်တာလူကြီးများသည် အခါအားလျော်စွာ ထိုသို့ပြောင်းလွှဲ စတော့ခ် ပမာဏအနည်းဆုံးမည်ရွေ့ဖြစ်ရမည်ဟု သတ်မှတ်နိုင်သည်။ ထိုသို့ သတ်မှတ်သည့် အနည်းဆုံး၏ တစ်စိတ်တစ်ဒေသ ပြောင်းလွှဲမှုကိုလည်း သတ်မှတ်နိုင်သည် သို့မဟုတ် ပိတ်ပင်နိုင်သည်၊ သို့သော် ထိုအနည်းဆုံး သတ်မှတ်ချက်သည် စတော့ခ်ပေါ်ထွက်လာသည့် ရှယ်ယာများ၏ သာမန်ပမာဏတန်ဖိုး ထက်မပိုစေရ။

### စတော့ခ်လက်ကိုင်ပိုင်ဆိုင်သူတို့၏ အခွင့်အရေးများ

၃၇။ စတော့ခ် ပိုင်ဆိုင် လက်ကိုင်ရှိသူများသည် “အများနှင့် သက်ဆိုင်သောကုမ္ပဏီ” ၏ အစည်းအဝေးနှင့် အခြား ကိစ္စရပ်များတွင် ၎င်းတို့၏ စတော့ပေါ်ပေါက်လာသည့် အစုရှယ်ယာများကိုင်ဆောင်ထားဘိသကဲ့သို့ယင်းအစုရှယ်ယာပမာဏအတိုင်း အမြတ်ဝေစုအခွင့်အရေး၊ မဲပေးခြင်း၊ အခွင့်အရေး၊ ပိုင်ရေး ပိုင်ခွင့် အထူးခွင့်နှင့် အကျိုးခံစားခွင့်ညီတူရရှိစေရမည်။ သို့ရာတွင် (ကုမ္ပဏီ၏အမြတ်ဝေစုနှင့် အကျိုး အမြတ်တွင် ပါဝင်ရရှိခြင်းမှအပ) ယင်းစတော့၏ စားကိန်းအရအကြွင်းမရှိသည့် အပိုင်းနှင့် ပတ်သက်၍မူ ယင်းစတော့ခ် ပေါ်ထွက်လာသည့် အစုရှယ်ယာများအပေါ် ပိုင်ရေးပိုင်ခွင့်အထူး အခွင့် အကျိုးအမြတ် ရရှိထားမှသာလျှင် ယင်းစတော့များအပေါ် ပိုင်ရေးပိုင်ခွင့်အထူးအခွင့်နှင့် အကျိုး ခံစားခွင့်ရရှိနိုင်သည်။

### အစုများနှင့်ပတ်သက်သည့် စည်းမျဉ်းများစတော့များနှင့် သက်ဆိုင်ခြင်း

၃၈။ ပေးဆပ်ပြီးသည့် ရှယ်ယာ (အစု) များနှင့် (ရှယ်ယာအစုများနှင့် ဝရမ်းများနှင့် သက်ဆိုင်သည့် ကိစ္စရပ်များမှအပ) ကုမ္ပဏီ၏စည်းမျဉ်းများသည် စတော့ခ်များနှင့်လည်း သက်ဆိုင်ရမည်။ “အစု”နှင့် အစုရှင်ဆိုသည့် စကားရပ်များတွင် “စတော့ခ်” နှင့် စတော့ခ် လက်ကိုင်ပိုင်ဆိုင်သူ စကားရပ်များ ပါဝင်သည်။

## အစုရှယ်ယာဝရမ်းများ

### အစုဝရမ်းများထုတ်ပေးခြင်း

၃၉။ ဤကုမ္ပဏီသည် အစုဝရမ်းများ ထုတ်ပေးနိုင်သည်။ ဒါရိုက်တာ လူကြီးများက အချိန် အားလျော်စွာ သတ်မှတ်ထားသည့် နည်းလမ်းအတိုင်း အပြည့်ပေးအပ်ပြီးသော အစုအတွက် အစု ပိုင်ရှင်အဖြစ် မှတ်ပုံတင်ထားသူသည် စာဖြင့် ရေးသားထားသည့် လက်မှတ်ထိုးထားသော လျှောက်လွှာဖြင့် အစုဝရမ်းများကို ဒါရိုက်တာလူကြီးများ၏ သဘောအတိုင်း ထုတ်ပေးနိုင်သည်။ ယင်းကဲ့ သို့ ထုတ်ပေးရန် လျှောက်လွှာအပေါ်ထိုးထားသည့် လက်မှတ် မှန်ကန်ကြောင်း သက်သေ အထောက်အထား (ရှိခဲ့သော်) ပါရှိရမည်။ အစုရှယ်ယာနှင့်ပတ်သက်၍ ယင်းအထောက်အထား လက်မှတ် (ရှိခဲ့သော်) ဝရမ်းအတွက် တံဆိပ်ခေါင်းဖိုးငွေနှင့်အခပါရရှိသည့်အခါ ဒါရိုက်တာ လူကြီး များသည် ဝရမ်းကို တံဆိပ်ခေါင်းကပ်၍ ကုမ္ပဏီ၏တံဆိပ်ဖြင့် ထုတ်ပေးနိုင်သည်။ ယင်း ဝရမ်းတွင် ဝရမ်းလက်ရှိဖြစ်သူသည် ဝရမ်းတွင်ဖော်ပြထားသည့် အစုရှယ်ယာများရရှိခွင့်ရှိသူ ဖြစ်ကြောင်းနှင့် ယင်းဝရမ်းတွင် ဖော်ပြထားသည့်အစုများအပေါ် ပေးရန်ရှိသော အမြတ်ဝေစုနှင့် အခြားငွေများ ရရှိခွင့်ရှိသူများဖြစ်ကြောင်း ဖော်ပြ၍ ထိုကဲ့သို့ရရန်ဖြတ်ပိုင်း သို့မဟုတ် အခြား အထောက်အထား ပေးအပ်ရမည်။

### အစုဝရမ်းဖြင့် အစုများလွှဲပြောင်းပေးခြင်း

၄၀။ အစုရှယ်ယာဝရမ်းသည် ယင်းဝရမ်းတွင် ဖော်ပြထားသည့် အစုများကို ထိုအစုဝရမ်း လက်ကိုင်ရှိသူက ပိုင်ဆိုင်ခွင့်ရှိသည်။ အစုဝရမ်းကို လက်ရောက်ပေးအပ်ခြင်းဖြင့် လွှဲပြောင်း ပေးခြင်း ဖြစ်သည်။ အစုများနှင့် ပတ်သက်သည့် လွှဲပြောင်းခြင်းနှင့် ဆင်းသက်မှုတို့နှင့် ကုမ္ပဏီ၏ စည်းမျဉ်း များသည် အစုဝရမ်းများနှင့် မသက်ဆိုင်စေရ။

### အစုရှယ်ယာဝရမ်းပိုင်ရှင်သည် အဖွဲ့ဝင်အဖြစ်မှတ်ပုံတင်ခြင်း

၄၁။ ဒါရိုက်တာလူကြီးများက အချိန်အားလျော်စွာ သတ်မှတ်ထားသည့် ငွေကြေး ပေးသွင်းပြီး၊ အစု ရှယ်ယာဝရမ်းပိုင်ရှင်က ယင်းဝရမ်းကို ကုမ္ပဏီကပင် ဖျက်ပေးရန် ပြန်သွင်းသည့်အခါ ၎င်း၏ အမည်ကို အဖွဲ့ဝင်များ မှတ်ပုံတင် စာအုပ်တွင် ဝရမ်းတွင်ဖော်ပြထားသည့် အစုရှယ်ယာများ အတိုင်း ပိုင်ဆိုင်သည့် အဖွဲ့ဝင်အဖြစ် ထည့်သွင်းပေးရန် တောင်းဆိုခွင့်ရှိသည်။

### အစုရှယ်ယာဝရမ်းအပ်နှံသည့် အခွင့်အရေး

၄၂။ အစုရှယ်ယာဝရမ်းပိုင်ဆိုင်သူသည် အချိန်မရွေးဝရမ်းကို ကုမ္ပဏီ၏ရုံး၌ အပ်နှံနိုင်သည်။ ထိုသို့ ဝရမ်းသည်အပ်နှံထားလျက်ရှိနေလျှင်အပ်နှံထားသူသည် ကုမ္ပဏီအစည်းအဝေး ခေါ်ပေးရန် တောင်းဆိုချက်လက်မှတ်ရေးထိုးခွင့် တန်းတူရှိသည်။ အပ်နှံထားသည့် ဝရမ်းတွင် ပါရှိသည့် အစုရှယ်ယာများနှင့်အညီ ထိုသူသည် ဝရမ်းအပ်နှံပြီး နှစ်ရက်တိတိ ကုန်ဆုံးသည့် အချိန်မှစ၍ မည်သည့် အစည်းအဝေးသို့တက်ခွင့်၊ မဲပေးခွင့်နှင့် အခြားအဖွဲ့ဝင်များရရှိသည့်ပိုင်ခွင့် အထူးအခွင့် အရေး များကျင့်သုံးခွင့်ရှိသည်။ သူတစ်ဦးတစ်ယောက် ထက်ပို၍ အစုရှယ်ယာ ဝရမ်းအပ်နှံသူ အဖြစ် အသိအမှတ်မပြု။ နှစ်ရက်ကြိုတင်နို့တစ်စာပေးပို့လျှင် ကုမ္ပဏီသည် အပ်နှံထားသော အစု ရှယ်ယာဝရမ်း ကို အပ်နှံသူအား ပြန်ပေးရမည်။

### အစုရှယ်ယာ ဝရမ်းပိုင်ဆိုင်ခွင့်များအတွက် သတ်မှတ်ချက်

၄၃။ နောက်တွင်အခြားနည်းအားဖြင့် အတိအကျဖော်ပြထားခြင်းမှတစ်ပါး အစုရှယ်ယာ ဝရမ်းပိုင်ရှင်မည်သူမဆို ကုမ္ပဏီအစည်းအဝေးခေါ်ပေးရန် လက်မှတ်ထိုး၍ တောင်းဆိုချက်ပြုခွင့်မရှိ သို့မဟုတ် ကုမ္ပဏီ အစည်းအဝေး တက်ခွင့် သို့မဟုတ် မဲပေးခွင့် သို့မဟုတ် ကုမ္ပဏီ အစည်း အဝေး တက်ခွင့်သို့မဟုတ် မဲပေးခွင့်သို့မဟုတ် အဖွဲ့ဝင်၏ အခြားပိုင်ရေးပိုင်ခွင့် အထူးအခွင့်မရှိ သို့မဟုတ် ကုမ္ပဏီထံမှ အကြောင်းကြားစာများရရှိခွင့်မရှိ၊ သို့ရာတွင် ဝရမ်း၌ ဖော်ပြထားသည့် အစုရှယ်ယာ ပိုင်ဆိုင်သူ အနေနှင့် မှတ်ပုံတင်စာအုပ်၌ ဖော်ပြထားသည့် အဖွဲ့ဝင် တစ်ဦးရရှိသည့် ပိုင်ရေးပိုင်ခွင့် အထူးအခွင့်များနှင့် အကျိုးခံစားခွင့်များကို အစုရှယ်ယာဝရမ်း ပိုင်ဆိုင်သူက ရရှိစေရမည်။ သူသည် "ကုမ္ပဏီ" ၏အဖွဲ့ ဝင်ဖြစ်သည်။

### အစုရှယ်ယာဝရမ်းများနှင့်ပတ်သက်၍ ဒါရိုက်တာလူကြီးများက နည်းဥပဒေများပြုလုပ်ခြင်း

၄၄။ အစုရှယ်ယာဝရမ်းများ ပျက်ပြယ်လျှင်၊ ဆုံးရှုံးလျှင် သို့မဟုတ် ပျက်စီးသွားလျှင် ပြန်လည် လဲလှယ်သည့်အနေနှင့် အစုရှယ်ယာဝရမ်းအသစ် လက်မှတ်ဖြတ်ပိုင်း ထုတ်ပေးရန် ဒါရိုက်တာ လူကြီးများသည် အခါအားလျော်စွာ သတ်မှတ်ချက်များအတွက် လိုအပ်သည်ဟု ထင်မှတ်လျှင် နည်း ဥပဒေများ ပြုလုပ်နိုင်သည်။

## အခန်း(၅)

## မတည်ငွေရင်းကို ပြုပြင်ပြောင်းလဲခြင်း

### မတည်ငွေရင်းကို တိုးမြှင့်ခြင်းအာဏာ

၄၅။ ဒါရိုက်တာများသည် အထွေထွေ အစည်းအဝေးကြီးတွင် ကုမ္ပဏီ၏အတည်ပြုခွင့်ပြုချက်များအရ တင်ပြရရှိသော အထူးဆုံးဖြတ်ချက်တစ်ရပ်ကို လိုက်နာ၍ မတည်ငွေရင်းကို တိုးမြှင့်ခြင်းနှင့် သင့်လျော်သော အစုရှယ်ယာများ အဖြစ်ခွဲစိတ်ခြင်းကို ဆုံးဖြတ်ခွင့်ပြုချက်တွင် သတ်မှတ်ပေးသည့် ပမာဏအတိုင်း ပြုလုပ်နိုင်သည်။

### အစုရှယ်ယာအသစ်များထုတ်ပေးရန် ကမ်းလှမ်းခြင်းအခွင့်အရေးနှင့် ထုတ်ပေးခြင်း

၄၆။ မတည်ငွေရင်း တိုးမြှင့်ရန် ဆုံးဖြတ်ခွင့်ပြုချက်ပေးရာတွင် ဆန့်ကျင်သော ညွှန်ကြားချက် တစ်ခုခုပါရှိသည့်ကိစ္စရပ်များမှ တစ်ပါး အစုရှယ်ယာသစ်များ ထုတ်ပေးရာတွင် အထွေထွေ အစည်း အဝေး ဖိတ်စာရထိုက်သူများသို့ အဆိုပါ သူတို့ပိုင်ဆိုင်လျက်ရှိသော အစုရှယ်ယာများ အချိုးအဆနှင့် အနီးဆုံးဖြစ်နိုင်သော အခြေအနေအတိုင်း အစုရှယ်ယာသစ်များ အရေအတွက် မည်မျှ ဝယ်ယူခွင့်ရှိကြောင်း အသိပေးသော နို့တစ်စာများ ရရှိခွင့်ရှိသည်။ အဆိုပါ နို့တစ်စာတွင် ထုတ်ပေးရန် ကမ်းလှမ်းသော အစုရှယ်ယာ အရေအတွက်နှင့် ထုတ်ပေးသည့် အချိန်ကာလ သတ်မှတ်ရက် ပါရှိစေလျက် ထိုရက်အတွင်း လက်ခံကြောင်း အတည်မပြုပါက လက်မခံလိုကြောင်း မှတ်ယူမည်ဖြစ်ကြောင်းဖော်ပြပါရှိရမည်။ ထိုသို့သတ်မှတ်ရက်ကျော်လွန်သည်ဖြစ်စေ၊ အစုရှယ်ယာ သစ်များမယူလိုကြောင်း အကြောင်းပြန်ကြား၍ဖြစ်စေ ကျန်ရှိသော အစုရှယ်ယာများကို ကုမ္ပဏီ အတွက် အကျိုးရှိဆုံးဖြစ်မည်ယူဆသော နည်းလမ်းများအတိုင်း ဒါရိုက်တာများက စီမံခန့်ခွဲနိုင်ခွင့် ရှိသည်။ ဒါရိုက်တာများသည် (ကိုင်ဆောင်ထားသော အစုရှယ်ယာများ အချိုးကျအတိုင်း ကမ်းလှမ်း ရန်ရှိသော အစုရှယ်ယာသစ်များ ဝယ်ယူခွင့်ရရှိမည့် ပုဂ္ဂိုလ်များသို့ အချိုးကျ ခွဲဝေရာတွင်)

ဤသင်းဖွဲ့စည်းမျဉ်း အရ ကမ်းလှမ်းခြင်းကို အဆင်ပြေစွာ ဆောင်ရွက်နိုင်မည် မဟုတ်ကြောင်း ထင်မြင်လျှင် မည်သည့် အစုရှယ်ယာသစ်ကိုမဆို အထက်ပါအတိုင်း စီမံခန့်ခွဲ နိုင်ခွင့်ရှိသည်။

**အစုရှယ်ယာအသစ်များနှင့် ပူးတွဲထားသော အခွင့်အရေးနှင့် တာဝန်များ**

၄၇။ အစုရှယ်ယာ အသစ်များသည်လည်း မူလမတည်ငွေရင်းပါ အစုရှယ်ယာများ နည်းတူ တောင်းခေါ်ခြင်းများကို ပေးချေရန်၊ တရားဝင် ထိန်းသိမ်းထားပိုင်ခွင့်၊ လွှဲပြောင်းခြင်း၊ ထပ်ဆင့် လွှဲပြောင်းခြင်း၊သိမ်းယူခြင်းနှင့်အခြားနည်းဆောင်ရွက်ခြင်းစသည့်သတ်မှတ်ချက်များနှင့် အကျုံးဝင် စေရမည်။

**အစုရှယ်ယာများကို ပေါင်းစည်းနိုင်သည့်အာဏာ**

၄၈။ ကုမ္ပဏီသည်သာမန်ဆုံးဖြတ်ချက်များအရ-

(က) လက်ရှိအစုရှယ်ယာ မတည်ငွေရင်းကို ပေါင်းစည်းခြင်းဖြင့် မူလအစုရှယ်ယာထက် တန်ဖိုးကြီးသော အစုရှယ်ယာများဖြစ်အောင် ဖန်တီးနိုင်သည်။

(ခ) **အစုရှယ်ယာများကို ထပ်မံခွဲစိတ်နိုင်သည့် အာဏာ။** လက်ရှိ အစုရှယ်ယာများကို ဖြစ်စေ၊ အခြားမည်သည့်အစုရှယ်ယာများကိုမဆိုဖြစ်စေ၊ ထပ်မံခွဲစိတ်ခြင်းဖြင့် အစု ရှယ်ယာ မတည်ငွေရင်း တစ်ခုလုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ဒေသကို ဖြစ်စေ၊ သင်းဖွဲ့ မှတ်တမ်းပါ အစုရှယ်ယာ တန်ဖိုးအောက်ငယ်သော အစုရှယ်ယာများ ဖြစ်အောင် ခွဲစိတ်နိုင်သည်။ သို့သော် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၅၀ ပုဒ်မခွဲ (၁) ပုဒ်မခွဲငယ် (ဃ) ပါ ပြဋ္ဌာန်းချက်ကို ကျော်လွန်၍ လုပ်နိုင်ခွင့်မရှိစေရ၊

(ဂ) **အစုရှယ်ယာများကို ပယ်ဖျက်နိုင်သည့် အာဏာ။** ဆုံးဖြတ်ချက်ချမှတ်သည့်နေ့တွင် ရယူခြင်း မပြုရသေးသော သို့မဟုတ် ရယူရန် သဘောတူခြင်း မရှိသေးသော မည်သည့် အစုရှယ်ယာများကိုမဆို ပယ်ဖျက်နိုင်သည်။

**မတည်ငွေရင်းကိုလျှော့ချနိုင်သည့်အာဏာ**

၄၉။ ကုမ္ပဏီသည် အစုရှယ်ယာ မတည်ငွေရင်းနှင့် မည်သည့် မတည်ငွေရင်း အာမခံ အထူး ရန်ပုံငွေ တို့ကိုမဆိုလျှော့ချခြင်းကို အထူးဆုံးဖြတ်ချက်များဖြင့် ဥပဒေက လက်ခံခွင့်ပြုထားသည့် ဘောင် အတွင်းမှ မည်သည့်နည်းဖြင့် မဆို ပြုလုပ်နိုင်သည်။

## အခန်း(၆)

## အထွေထွေအစည်းအဝေးများ

**ဥပဒေအရကျင်းပသည့်အထွေထွေအစည်းအဝေး**

၅၀။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၇၇ ၏လိုအပ်ချက်အရ ကုန်သွယ်မှု စတင် ဆောင် ရွက်ခွင့်ရှိသည့် ရက်မှတစ်လထက်မနည်း သို့မဟုတ် ခြောက်လထက်မကျော်သည့် အချိန်အတွင်း ကုမ္ပဏီ သည်ဥပဒေပြဋ္ဌာန်းချက်အထွေထွေအစည်းအဝေးကျင်းပရမည်။

**နှစ်ပတ်လည်အထွေထွေအစည်းအဝေးကြီးများ**

၅၁။ ကုမ္ပဏီ၏ အထွေထွေ အစည်းအဝေးကို ကုမ္ပဏီအားဥပဒေအရ ဖွဲ့စည်း တည်ထောင်ထားသည့် နေ့ရက်မှစ၍ တစ်ဆယ်ရှစ်လ အတွင်းတွင်ကျင်းပပေးစေရမည်။ ထိုသို့ ကျင်းပပြီးနောက် တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံး ကျင်းပပြီးစီးသွားသော အထွေထွေအစည်းအဝေးပြီးဆုံး၍ တစ်ဆယ့်ငါးလထက် မပိုသည့်အချိန်၌) ကုမ္ပဏီ၏ အထွေထွေအစည်းအဝေးကြီးတွင် သဘောတူဆုံးဖြတ်ထားသည့် အဆိုပါနေ့၊ အချိန်နှင့်နေရာတွင် အထွေထွေအစည်းအဝေးကြီး ခေါ်ယူ ရမည် သို့မဟုတ် ယင်းနည်းအတိုင်း ခေါ်ယူသည့် အထွေထွေ အစည်းအဝေးကျင်းပရန် ပျက်ကွက် ခဲ့သည်ရှိသော် နောက်လာမည့် တစ်လအတွင်း မည်သည့်အသင်းသားနှစ်ဦးမှနေ၍မဆို အထွေထွေ အစည်းအဝေးကို ဒါရိုက်တာများက ခေါ်ယူလေ့ရှိသည့် နည်းလမ်းများအတိုင်း အနီးစပ်ဆုံးဖြစ်စေ လျက် ပုံစံတကျ ခေါ်ယူခွင့်ရှိစေရမည်။

**အစိပ္ပါယ်ဖော်ပြချက်**

၅၂။ အထက်ဖော်ပြပါ အထွေထွေ အစည်းအဝေးများကို သာမန် အစည်းအဝေးများဟု ခေါ်ဆို၍ ကျန်အစည်းအဝေးများကို အထူးအစည်းအဝေးများဟု ခေါ်ဆိုရမည်။

**အထူးအထွေထွေအစည်းအဝေးများ**

၅၃။ ဒါရိုက်တာများသည် သင့်လျော်သည်ဟု ယူဆသည့် မည်သည့်အချိန်၌မဆို အထူးအထွေထွေ အစည်းအဝေး ကိုခေါ်ယူနိုင်သည်။ ထို့ပြင် တောင်းဆိုခြင်း ပြုလာ၍ သော်လည်းကောင်းသို့မဟုတ် အစည်းအဝေးကျင်းပရန် ပျက်ကွက်ပါကလည်းကောင်း အထူးအထွေထွေ အစည်းအဝေးကို ခေါ်စေ နိုင်သည်။ အကယ်၍ မည်သည့်အချိန်တွင်မဆို မြန်မာနိုင်ငံအတွင်း အစည်းအဝေး အထမြောက် နိုင်လောက်သော ဒါရိုက်တာများ အရေအတွက် မရှိပါက မည်သည့် ဒါရိုက်တာမဆိုသော် လည်းကောင်း ကုမ္ပဏီ၏မည်သည့် အဖွဲ့ဝင်နှစ်ဦးမဆိုကသော် လည်းကောင်း ဒါရိုက်တာများက အစည်းအဝေးကို ခေါ်ယူစေသည့် နည်းလမ်းများအတိုင်း အနီးစပ်ဆုံး ဖြစ်စေလျက် အထူးအထွေထွေ အစည်းအဝေးကို ခေါ်ယူနိုင်သည်။

## အထွေထွေအစည်းအဝေးကြီးများတွင်ဆောင်ရွက်ချက်များ

**အထွေထွေနှင့် အထူးအစည်းအဝေးအတွက် နို့တစ်စာ**

၅၄။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၁ ပုဒ်မခွဲ (၂) ပါ အထူးဆုံးဖြတ်ချက်များနှင့် စပ်လျဉ်းသော ပြဋ္ဌာန်းချက်များကို လိုက်နာလျက် အနည်းဆုံး တစ်ဆယ့်လေးရက် ကြိုတင်၍ နို့တစ်စာကို (နို့တစ်စာထုတ်သည့်နေ့ သို့မဟုတ် နို့တစ်စာ ထုတ်ပြီးဖြစ်သည်ဟု သဘောဆောင်သောနေ့ကို ဖယ်ထုတ်လျက်၊ သို့သော် နို့တစ်စာပေးအပ်ပြီးသည့် နေ့ကိုမူ ထည့်သွင်းရေတွက်ရမည်) အစည်းအဝေးကျင်းပမည့်အချိန်၊ နာရီ၊ နေ့ရက်နှင့် နေရာတို့ကို ဖော်ပြလျက်အဖွဲ့ဝင်များအားဖိတ်ကြားရမည်။ အထူးလုပ်ငန်းကိစ္စရပ်အတွက်ဖြစ်စေ ယင်းလုပ်ငန်း၏ ယေဘုယျသဘောအနေအထားအရ ဆက်လက်ဖော်ပြမည့်နည်းလမ်းအတိုင်း နို့တစ်စာချအပ်ရမည် သို့မဟုတ် အခြားနည်းလမ်းရှိခဲ့လျှင် ကုမ္ပဏီ၏ အထွေထွေအစည်းအဝေးက သတ်မှတ်နိုင်သည်။ နို့တစ်စာချအပ်ဖိတ်ကြားရာတွင် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် ကုမ္ပဏီ၏ စည်းမျဉ်းများအရ

နို့တစ်စာလက်ခံခွင့်ရှိသူများထံပေးအပ်ဖိတ်ကြားရမည်။သို့သော်နို့တစ်စာပေးအပ်ရန် မတော်တဆ ချန်လှပ်မိခြင်း သို့မဟုတ် မည်သည့် အဖွဲ့ဝင်မဆို နို့တစ်စာလက်ခံရရှိမှုမရှိခြင်း အကြောင်းကြောင့် မည်သည့် အထွေထွေ အစည်းအဝေးတွင်မဆို ဆောင်ရွက်ခဲ့သည့် ဆောင်ရွက် ချက်များကို ပျက်ပြယ် စေခြင်းမဖြစ်စေရ။

**အထူးကိစ္စဟုမှတ်ယူရမည့်လုပ်ငန်း**

၅၅။ မည်သည့်သာမန် အစည်းအဝေးများတွင်မဆို ဆောင်ရွက်သော အမြတ်ဝေစု တစ်ရပ် ခွဲဝေခွင့်ပြုခြင်းကိစ္စ၊ ငွေစာရင်းကိစ္စ၊ ဒါရိုက်တာများနှင့် စာရင်းများ၏ သာမန်မှတ်တမ်း တင်ပြချက်များနှင့် ငွေစာရင်းရှင်းတမ်းများကိစ္စ၊ အလှည့်ကျအနားယူသွားသော ဒါရိုက်တာများနှင့် အခြား အရာရှိများနေရာတွင် အစားထိုးရွေးချယ်ခြင်း ကိစ္စ၊ စာရင်းစစ်များ ချီးမြှင့်ရမည့် ထောက်ပံ့ငွေများ သတ်မှတ်ခြင်းကိစ္စများမှ တစ်ပါးမည်သည့် သာမန်အစည်းအဝေးတွင်ဖြစ်စေ၊ အထူးအစည်း အဝေး တစ်ရပ်တွင်ဖြစ်စေ၊ ဆွေးနွေးဆောင်ရွက်သည့်လုပ်ငန်းအားလုံးကို အထူးကိစ္စဟုမှတ်ယူ ရမည်။

**အစည်းအဝေးအထမြောက်ရန် တက်ရောက်ရမည့်အဖွဲ့ဝင် ဦးရေ**

၅၆။ အစည်းအဝေးအထမြောက်စေရန် လိုအပ်သောအဖွဲ့ဝင်ဦးရေပြည့်စုံစွာ တက်ရောက်ခြင်း မပြုမီ အစည်းအဝေး စတင်ရန်အချိန်ကျရောက်စေကာမူမည်သည့် အထွေထွေ အစည်းအဝေးတွင်မှ လုပ်ငန်းကိစ္စကို ဆောင်ရွက်ခြင်းမပြုရ။ ဤတွင် အခြားနည်း သတ်မှတ်ချက်များ စီစဉ် ထားပြီးရှိသည်များမှ တစ်ပါးအဖွဲ့ဝင်ငါးဦး တက်ရောက်ရမည်။ သို့မှသာ အစည်းအဝေး အထမြောက်စေသော ဦးရေပြည့်စုံသည်ဟု သတ်မှတ်သည်။

**စုံညီတက်ရောက်ခြင်းမရှိက အစည်းအဝေးကို ဖျက်သိမ်းခြင်း၊ သို့မဟုတ် ရွှေ့ဆိုင်းခြင်း**

၅၇။ အစည်းအဝေးအတွက်ချိန်းဆိုထားသော အချိန်ကျရောက်ပြီး နာရီဝက်အတွင်း အစည်းအဝေး အထမြောက်စေမည့် အဖွဲ့ဝင်ဦးရေတက်ရောက်ခြင်း မရှိလျှင်၊ အဆိုပါ အစည်းအဝေးသည် အဖွဲ့ဝင်များ တောင်းဆိုချက်အရ ခေါ်ယူထားခြင်း ဖြစ်ပါကဖျက်သိမ်းရမည်။ အခြားကိစ္စ တစ်ရပ်ရပ်ကြောင့်ဖြစ်လျှင် အစည်းအဝေးကို တူညီသောနေ့၊ တူညီသောအချိန်၊ တူညီသောနေရာပင် နောက်ရက်သတ္တပတ်သို့ ရွှေ့ဆိုင်းထားရမည်။ အကယ်၍ ရွှေ့ဆိုင်းထားသော နေ့ရက်တွင် ကျင်းပမည့် အစည်းအဝေး၌ အစည်းအဝေးအထမြောက်စေရန် တက်ရောက်ရမည့် အဖွဲ့ဝင် ဦးရေသည် ချိန်းဆိုထားသော အချိန်ကျရောက်ပြီး နာရီဝက်အတွင်း တက်ရောက်လာခြင်း မရှိလျှင် တက်ရောက်လာသမျှသော အဖွဲ့ဝင်များသည် အစည်းအဝေးအထမြောက်စေသည့် အဖွဲ့ဝင်ဦးရေ ဖြစ်စေရမည်။

**ဒါရိုက်တာဘုတ်အဖွဲ့၏ သဘာပတိသည် အထွေထွေအစည်းအဝေး၏ သဘာပတိဖြစ်ခြင်း**

၅၈။ ဒါရိုက်တာများ ဘုတ်အဖွဲ့၏ သဘာပတိရှိလျှင် ကုမ္ပဏီ၏ အထွေထွေ အစည်းအဝေးတိုင်း၌ သဘာပတိအဖြစ်ဆောင်ရွက်ရမည်။

**အမြဲတမ်း သဘာပတိ မရောက်သည့်အခါ အထွေထွေအစည်းအဝေး၏ သဘာပတိအဖြစ် ရွေးချယ်ခြင်း**

၅၉။ အဆိုပါ သဘာပတိမရှိလျှင် သို့မဟုတ် အစည်းအဝေး၌ မဆိုကျင်းပရန် သတ်မှတ်ထားသော အချိန်စေ့ရောက်ပြီးနောက် တစ်ဆယ့်ငါးမိနစ်အတွင်း သဘာပတိ တက်ရောက်လာခြင်း မရှိပါက သို့မဟုတ် သဘာပတိ အဖြစ် ဆောင်ရွက်ရန် ဆန္ဒမရှိပါက တက်ရောက်လာသော အဖွဲ့ဝင်များ သည် မိမိတို့အထဲမှတစ်ဦးကို သဘာပတိအဖြစ် ရွေးချယ်တင်မြှောက်ရမည်။ သို့ရာတွင် ထိုသူသည် ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော် အစိုးရက တာဝန်ပေးအပ်သည့် သက်ဆိုင်ရာဝန်ကြီး ဌာနက ရွေးချယ်ထားသော ဒါရိုက်တာ လူကြီးဖြစ်ရမည်။

**ရွှေ့ဆိုင်းခြင်းများနှင့်ရွှေ့ဆိုင်းရန် နို့တစ်စာ**

၆၀။ အစည်းအဝေး အထမြောက်စေသည့် အဖွဲ့ဝင်ဦးရေ တက်ရောက်၍ အထမြောက်သော မည်သည့် အစည်းအဝေး၏ သဘောတူညီချက်အရ သဘာပတိသည် (ထို့ပြင် အစည်းအဝေး၏ ညွှန်ကြားချက်အရ ဖြစ်စေ) အစည်းအဝေးကို တစ်နေရာသို့ဖြစ်စေ၊ အချိန်တစ်ချိန်မှ တစ်ချိန်သို့ ဖြစ်စေ ရွှေ့ဆိုင်းနိုင်သည်။ သို့သော်ရွှေ့ဆိုင်း အစည်းအဝေး၌ ဆောင်ရွက်ရန် ကျန်ရှိခဲ့သည့် မပြီးပြတ်သေးသော လုပ်ငန်းကိစ္စမှတစ်ပါး အခြားမည်သည့် လုပ်ငန်းကိစ္စကိုမျှ ဆောင်ရွက် ခြင်းမပြုရ။ အစည်းအဝေးအတွက် နို့တစ်စာကို မူလအစည်းအဝေး တစ်ရပ်အတွက်ကဲ့သို့ပင် ပေးပို့ ရမည်။ အထက်ဖော်ပြပါအတိုင်းမှ တစ်ပါး၊ အစည်းအဝေး ရွှေ့ဆိုင်းခြင်း တစ်ရပ်အတွက် ဖြစ်စေ၊ ရွှေ့ဆိုင်း အစည်းအဝေးတစ်ရပ်တွင် ဆောင်ရွက်ရန် လုပ်ငန်းကိစ္စရပ်အတွက် ဖြစ်စေ မည်သည့် နို့တစ်စာကိုမျှ ချအပ်ပေးရန် လိုအပ်ခြင်း မရှိစေရ။

**မဲပေးသူစာရင်းကို မည်ကဲ့သို့ကောက်ခံခြင်း**

၆၁။ မည်သည့် အထွေထွေအစည်းအဝေးတွင် မဆိုဆုံးဖြတ်ချက် တစ်ရပ်အတွက် မဲပေးခြင်းကို လက်များပြခြင်းဖြင့် ဆုံးဖြတ်နိုင်သည်။ (လက်များပြ၍ ရရှိသော အဖြေကို ကြေညာနေစဉ် ဖြစ်စေ၊ ကြေညာခြင်း မပြုမီတွင်ဖြစ်စေ) သဘာပတိကဖြစ်စေ၊ အနည်းဆုံး အဖွဲ့ဝင်ငါးဦးက ဖြစ်စေ မဲပေးသူ စာရင်းကို တောင်းဆိုခြင်းမပြုလျှင်၊ ထို့ပြင်မဲပေးသူစာရင်းကိုတောင်းဆိုခဲ့ပြီး မဟုတ်လျှင်၊ လက်များပြ၍ မဲပေးခြင်းဖြင့် ဆုံးဖြတ်သော ဆုံးဖြတ်ချက်တစ်ရပ်တွင် အတည်ပြုကြောင်း သို့မဟုတ် အများသဘောတူ အတည်ပြုကြောင်း သို့မဟုတ် အများစု၏ သဘောဆန္ဒအရ အတည်ဖြစ်ကြောင်း သို့မဟုတ် ရှုံးနိမ့်သွားကြောင်း တို့သည်သဘာပတိ၏ ကြေညာချက်တစ်ရပ်တွင် ပါဝင်ပြီးဖြစ်သည်။ ထို့ပြင်အဆိုပါအကျိုးသက်ရောက်မှုကို ကုမ္ပဏီ၏ဆောင်ရွက်မှုမှတ်တမ်းစာအုပ်တွင် ရေးသွင်းချက် တစ်ရပ်ပြုလုပ်ခြင်းသည် ထောက်ခံမဲသို့မဟုတ် ကန့်ကွက်မဲ အရေအတွက်ကို သော်လည်းကောင်း၊ အချိုးအဆကိုသော် လည်းကောင်း၊ သက်သေထင်ရှားပြရန် မလိုဘဲ ယင်းဆုံးဖြတ်ချက်အတွက် လုံလောက်သည့် အပြီးသတ် သက်သေခံချက် ဖြစ်စေရမည်။

**မဲပေးသူစာရင်းမည်ကဲ့သို့ ကောက်ခံခြင်း**

၆၂။ အကယ်၍ မဲဆန္ဒပေးသူစာရင်းကို နည်းလမ်းတကျ ပြုလုပ်လာပါက အစည်းအဝေး တက်ရောက်သော အဖွဲ့ငါးဦး ကိုယ်တိုင်သော် လည်းကောင်း၊ ကိုယ်စားလှယ်ဖြင့်ဖြစ်စေ၊ သို့မဟုတ် အစည်းအဝေး၏ သဘာပတိကဖြစ်စေ သို့မဟုတ် ဆယ်ပုံတစ်ပုံထက် မနည်းမဲပေးခွင့်ရှိသူ

ထုတ်ပေးထားသည့် မတည်ငွေရင်း ပိုင်ဆိုင်သူ တစ်ဦးဦးက ပုဒ်မ ၇၉ ပုဒ်မခွဲ(၁) အပိုဒ်(ဂ)အရ မဲဆန္ဒပေးသူစာရင်း တောင်းခွင့်ရှိသည်။ သဘာပတိ၏ ညွှန်ကြားချက်အတိုင်း စာရင်းကောက်ယူရမည်။ ထို့အပြင် ကောက်ယူရရှိသော မဲဆန္ဒစာရင်းအဖြေသည် မဲပေးသူစာရင်း ကောက်ယူရန် တောင်းဆိုသည့် အစည်းအဝေး၏ ဆုံးဖြတ်ချက်ဟုမှတ်ယူရမည်။

**သဘာပတိ၏ မဲပေးခြင်း**

၆၃။ လက်များ ပြခြင်းဖြင့်ဖြစ်စေ၊ မဲဆန္ဒစာရင်း ကောက်ယူခြင်းဖြင့်ဖြစ်စေ၊ ဆောင်ရွက်ရာတွင် ဆန္ဒမဲများ တူညီနေသည့် ကိစ္စရပ်တွင် သဘာပတိသည် အစည်းအဝေးတွင် လက်ပြခြင်းဖြင့် ဖြစ်စေ၊ မဲဆန္ဒပေးသူစာရင်းတွင် ပါဝင်၍ ဖြစ်စေ ဒုတိယ သို့မဟုတ် ဆုံးဖြတ်မဲတစ်မဲပေးပိုင်ခွင့် ရှိရမည်။

**မဲစာရင်းကောက်ယူရန် အချိန်သတ်မှတ်ခြင်း**

၆၄။ အစည်းအဝေး သဘာပတိတစ်ဦး ရွေးချယ်တင်မြှောက်ရာတွင် ဖြစ်စေ၊ အစည်းအဝေး ရွှေ့ဆိုင်းရန် ကိစ္စပေါ်ပေါက်လာလျှင်ဖြစ်စေ၊ ယင်းအတွက် ဆန္ဒမဲပေးသူစာရင်း ကောက်ယူခြင်းကို ချက်ချင်းဆောင်ရွက်ရမည်။ အခြားမည်သည့် ကိစ္စအတွက်မဆို တောင်းဆိုသော ဆန္ဒမဲပေးသူစာရင်းကောက်ယူခြင်းကိုအစည်းအဝေးသဘာပတိ၏ညွှန်ကြားသည့်အချိန်တွင် ဆောင်ရွက်ရမည်။

## အခန်း(၇)
## အဖွဲ့ဝင်များ၏ မဲများ

**အဖွဲ့ဝင်များ၏မဲပေးပိုင်ခွင့်များ**

၆၅။ လက်များပြ၍ မဲပေးခြင်းတွင် ကိုယ်တိုင်တက်ရောက်နေသော အဖွဲ့ဝင်တိုင်းသည် မဲတစ်မဲ ပေးခွင့်ရှိသည်။ မဲပေးသူစာရင်း ကောက်ယူခြင်းတွင် အဖွဲ့ဝင်တိုင်းသည် မိမိပိုင်ဆိုင်သော အစုရှယ်ယာ တစ်ခုစီအတွက် မဲတစ်မဲစီ ပေးပိုင်ခွင့်ရှိသည်။

**ပူးတွဲပိုင်ဆိုင်သူများ၏ မဲပေးပိုင်ခွင့်များ**

၆၆။ ပူးတွဲပိုင်ဆိုင်သူများကိစ္စ၌ ဝါအရင့်ဆုံး ပုဂ္ဂိုလ်ကိုယ်တိုင်ဖြစ်စေ၊ ကိုယ်စားလှယ်ဖြင့် ဖြစ်စေ ပေးသောမဲတစ်မဲကို ကျန်ရှိသော ပူးတွဲပိုင်ဆိုင်သူများ၏ မဲများအား ထုတ်ပယ်လျှင် လက်ခံရမည်။ အဆိုပါ ဝါရင့်မှုကိစ္စအလို့ငှာ ကုမ္ပဏီမှတ်ပုံတင် စာအုပ်ပါ အမည်နာမ ရပ်တည်မှု အစီအစဉ်အတိုင်း ဆုံးဖြတ်ရမည်။

**ရူးသွပ်သူအဖွဲ့ဝင်၏ မဲပေးပိုင်ခွင့်များ**

၆၇။ စိတ်မမှန်သူအဖွဲ့ဝင်တစ်ဦး သို့မဟုတ် စီရင်ပိုင်ခွင့် အာဏာရှိသော မည်သည့် တရားရုံးက မဆို ရူးသွပ်ကြောင်း အမိန့်တစ်ရပ်ချမှတ်ခံရပြီး သူအဖွဲ့ဝင်အတွက် အဆိုပါ ပုဂ္ဂိုလ်၏ ကော်မတီက ဖြစ်စေ၊ အခြားတရားဝင် အုပ်ထိန်းသူက ဖြစ်စေလက်များပြ၍ မဲပေးခြင်းစနစ် အရသော်လည်းကောင်း၊ မဲပေးသူစာရင်း ကောက်ယူခြင်းအရသော် လည်းကောင်း မဲပေးပိုင်ခွင့်ရှိသည်။ ထို့ပြင် မဲစာရင်းကောက်ယူခြင်းနည်းဖြင့် မဲပေးရာတွင် အဆိုပါ မည်သည့် ကော်မတီ သို့မဟုတ် တရားဝင် အုပ်ထိန်းသူမဆို ကိုယ်စားလှယ်လွှဲအပ်ခြင်းဖြင့် မဲပေးနိုင်သည်။

**ကာလစေ့ရောက်သည့် ကြွေးမြီပေးဆပ်ရန် ကျန်ရှိသောအဖွဲ့ဝင်များ မဲပေးခွင့်မရှိခြင်း**

၆၈။ မည်သည့်အထွေထွေအစည်းအဝေးတွင်မဆို ကုမ္ပဏီတွင်မိမိပိုင်ဆိုင်သော အစုရှယ်ယာများနှင့်စပ်လျဥ်း၍ တောင်းခေါ်မှုအားလုံးအတွက်ဖြစ်စေ၊ အခြားသောငွေကြေးများကို လောလောဆယ်ပေးချေရန်ရှိနေခြင်းများကိုဖြစ်စေပေးချေခြင်းမပြုရသေးသောအဖွဲ့ဝင်သည်မဲပေးပိုင်ခွင့် မရှိစေရ။

**ကိုယ်တိုင်သို့မဟုတ် ကိုယ်စားလှယ်ဖြင့်မဲပေးခြင်း**

၆၉။ မဲပေးသူစာရင်း ကောက်ယူခြင်းတွင် ကိုယ်တိုင်ဖြစ်စေ ကိုယ်စားလှယ်ဖြစ်စေ မဲပေးနိုင်ခွင့်ရှိသည်။ သို့သော် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၀ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အာဏာ တည်လျက်ရှိသော ကုမ္ပဏီ၏ ဒါရိုက်တာများ၏ ဆုံးဖြတ်ချက်တစ်ရပ်ရှိနေသမျှ ကာလပတ်လုံး ကိုယ်စားလှယ်ဖြင့် မဲပေးခြင်းကို မည်သည့်ကုမ္ပဏီကမျှ ပြုလုပ်ခွင့်မရှိစေရ။

**မဲပေးခွင့်ရ ကိုယ်စားလှယ်လွှဲအပ်ခြင်း**

၇၀။ ကိုယ်စားလှယ် လွှဲအပ်ခြင်းခံရသူ တစ်ဦးကို စာချုပ်စာတမ်းဖြင့် ခန့်ထားရာတွင် လွှဲအပ်သူကိုယ်တိုင် လက်ရေးဖြင့်ဖြစ်စေ၊ လွှဲအပ်သူက အခွင့်အာဏာပေးထားသည့် ကိုယ်စား ဆောင်ရွက်သူက ကိုယ်တိုင်လက်ရေးဖြင့် နည်းလမ်းတကျ ရေးသား၍ ဖြစ်စေ စာဖြင့်ခန့်ထားရမည်။ အကယ်၍ လွှဲအပ်သူသည် အသင်း သို့မဟုတ် အဖွဲ့အစည်းတစ်ခုခုဖြစ်လျှင် ယင်း၏အသုံးပြုမြဲ ရုံးတံဆိပ်ခတ်နှိပ်လျက်သော် လည်းကောင်း၊ အခွင့်အာဏာပေးထားသည့် အရာရှိတစ်ဦး သို့မဟုတ် ကိုယ်စား ဆောင်ရွက်ခွင့်ရှိသူကသော်လည်းကောင်း လက်ရေးဖြင့် ရေးသားလျက် လွှဲအပ်ခန့်ထားရမည်။ စည်းမျဥ်း ၇၃ ပါစည်းကမ်းချက်နှင့်အညီ အဖွဲ့အစည်းအသင်းအပင်း စသည်တို့၏ ကိုယ်စားလှယ်များမှ တစ်ပါးကုမ္ပဏီ၏ အဖွဲ့ဝင်တစ်ဦး မဟုတ်သူ မည်သူ့ကိုမျှ မဲပေးခွင့် လွှဲအပ်ခန့်ထားခြင်းခံရသူ ကိုယ်စားလှယ် အဖြစ် ဆောင်ရွက်ခွင့် မရှိစေရ။

**မဲပေးခွင့်ရ ကိုယ်စားလှယ်များကို ကြိုတင်စာရင်းတင်သွင်းခြင်း**

၇၁။ ကိုယ်စားလွှဲအပ်ခြင်းခံရသူနှင့် အခွင့်အာဏာ ပေးအပ်ခြင်းခံရသူ သို့မဟုတ် အခြားလုပ်ပိုင်ခွင့် ပေးအပ်ခြင်းခံရသူ (ရှိလျှင်) တစ်ဦးကို ခန့်ထားသည့် စာချုပ်စာတမ်းအောက်တွင် ခန့်ထားသူက လက်မှတ်ရေးထိုးထားခြင်းဖြင့်သော်လည်းကောင်း၊ အဆိုပါ အာဏာ သို့မဟုတ် လုပ်ပိုင်ခွင့် ပေးအပ်ထားခြင်းအတွက် နိုတြီဖြင့် မှန်ကန်ကြောင်း သက်သေခံလက်မှတ် ရေးထိုးထားသည့် စာချုပ်စာတမ်း မိတ္တူတစ်စောင်ဖြင့်သော် လည်းကောင်း ပြုလုပ်လျက် အဆိုပါ စာချုပ်စာတမ်းတွင် အမည်ဖော်ပြထားသူက မဲပေးရန် ကြံရွယ်သော အစည်းအဝေးကျင်းပမည့် အချိန်မတိုင်မီ ခုနှစ်ဆယ့်နှစ်နာရီ အောက် မနည်းစေဘဲ ကုမ္ပဏီ၏ မှတ်ပုံတင်ရုံးတွင် တင်သွင်းပြီး ဖြစ်စေရမည်။ ထို့အပြင်ကိုယ်စား လွှဲအပ်ခြင်းခံရသူအားခန့်ထားသည့်စာချုပ်စာတမ်းပြုလုပ် တင်သွင်းရန် ပျက်ကွက်လျှင် ယင်းကို တရားဝင်သည်ဟု သက်မှတ်ခြင်းမခံထိုက်စေရ။

**မဲပေးရန် ကိုယ်စားလှယ်လွှဲစာချုပ်ဆိုခြင်း**

၇၂။ ကိုယ်စားလှယ်လွှဲအပ်ခြင်းခံရသူတစ်ဦးဆိုင်ရာစာချုပ်စာတမ်းတစ်စောင်သည် အောက်ဖော်ပြပါ ပုံစံအတိုင်း သော်လည်းကောင်း၊ ဒါရိုက်တာများ လက်ခံနိုင်သော အခြားမည်သည့် ပုံစံနှင့် မဆိုသော်လည်းကောင်းဖြစ်စေရမည်-

## မဲပေးခွင့်ရ ကိုယ်စားလှယ်လွှဲအပ်ခြင်းပုံစံ

အထက်ဖော်ပြပါ ကုမ္ပဏီ၏ အဖွဲ့ဝင် တစ်ဦးဖြစ်သည့်......................နေ၊ ကျွန်ုပ် ...................... သည်............ နေ့ ......................ကျင်းပမည်ဖြစ်သော ကုမ္ပဏီ၏ (သာမန် သို့မဟုတ် အထူး၊ ဆိုင်သင့်ရာရာ)အထွေထွေအစည်းအဝေးတွင်လည်းကောင်း၊ ရွှေ့ဆိုင်းထားသည့် အစည်းအဝေးတွင်လည်း မဲဆန္ဒပေးခွင့်ရှိသူကိုယ်စားလွှဲအပ်ခြင်း ခံရသူအဖြစ် ကျွန်ုပ်၏ကိုယ်စား......................နေ၊................ အား ခန့်ထားလိုက်သည်။

............... ခုနှစ်၊ ...................လ......... ရက်နေ့တွင် လက်မှတ် ရေးထိုးပါသည်။

## အဖွဲ့အစည်း၊ အခြားအဖွဲ့ များ၏ ကိုယ်စားလှယ်များ အဖြစ်ဆောင်ရွက်ခွင့်

### အဖွဲ့ဝင်အဖြစ် ပါဝင်ဆောင်ရွက်သော အဖွဲ့အစည်းများအနေနှင့် ကိုယ်စားပြုသူနှင့် ဆောင် ရွက်ခွင့်

၇၃။ ကုမ္ပဏီအဖွဲ့ဝင်ဖြစ်သော မည်သည့်အဖွဲ့အစည်းမဆို ၎င်း၏ဒါရိုက်တာလူကြီး သို့မဟုတ် အုပ်ချုပ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အရ ၎င်းတို့သင့်တော်သည့်သူ သို့မဟုတ် သူများကို၎င်း၏ ကိုယ်စားပြုသူ သို့မဟုတ် ကိုယ်စားပြုသူများအဖြစ် ဆောင်ရွက်ရန် ကုမ္ပဏီ အစည်းအဝေးသို့ စေလွှတ်နိုင်သည်။ ထို့အပြင် ကုမ္ပဏီ၏အဖွဲ့ဝင် သို့မဟုတ် အခြားအတန်းအစားအဖြစ် ပါဝင်သူနှင့် ထိုသို့ပါဝင်ရန် ခွင့်ပြုထားသည့်သူ သို့မဟုတ် သူများသည်ကုမ္ပဏီ၏ ပုဂ္ဂလိက အဖွဲ့ဝင်က ဆောင်ရွက်နိုင်သည့် အာဏာများကို ယင်းအဖွဲ့အစည်းကိုယ်စား ဆောင်ရွက်ခွင့်ရှိသည်။

## အခန်း(၈)

## စီမံအုပ်ချုပ်ခြင်း

### ဖွဲ့စည်းခြင်း

၇၄။ ကုမ္ပဏီ၏ လုပ်ငန်းများကို စီမံအုပ်ချုပ်ရာတွင် အကြံဉာဏ်ပေးခြင်း၊ ပေါင်းစပ်ညှိနှိုင်းပေးခြင်းနှင့်လုပ်ငန်းလမ်းညွှန်မှုပေးခြင်းတို့ကို အခါအားလျော်စွာ လိုအပ်သလိုပြုလုပ်သွားရန် အလို့ငှာ ဦးသျှောင်အဖွဲ့ကို လည်းကောင်း၊ လုပ်ငန်းများကို တိုက်ရိုက်စီမံခန့်ခွဲရန်အတွက် ဒါရိုက်တာ အဖွဲ့ကို လည်းကောင်းဖွဲ့စည်းရမည်။

## ဒါရိုက်တာများ

### ပထမဦးဆုံးဒါရိုက်တာများ

၇၅။ ဒါရိုက်တာများ၏ အရေအတွက်နှင့် ပထမဦးဆုံးသော ဒါရိုက်တာများ၏ အမည်နာမများကို သင်းဖွဲ့မှတ်တမ်းအရ အစုရှယ်ယာပါဝင်ရန် ကတိပြုသူများကစာဖြင့် ရေးသားဆုံး ဖြတ်ရမည်။

ကုမ္ပဏီ၏ ပထမဦးဆုံး ဒါရိုက်တာများမှာ အောက်ပါအတိုင်းဖြစ်သည်-

(၁) "က" အစုရှင်က ရွေးချယ်သော အများနှင့် သက်ဆိုင်သော ကုမ္ပဏီတွင် သတ်မှတ်ထားသော အရည် အချင်းပြည့် အစုရှယ်ယာများ ထည့်ဝင်သူ ဒါရိုက်တာများ

| အမှတ်စဉ် | အမည် | ရာထူးအဆင့် | ဌာန | လိပ်စာ |
|---|---|---|---|---|

(၂) "ခ" အစုရှင်များက ရွေးချယ်သော

(၁) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်မှ နိုင်ငံသားများ။

(၂) အများနှင့် သက်ဆိုင်သော ကုမ္ပဏီသည် နိုင်ငံတော်၏ခွင့်ပြုချက်အရ လုပ်ကိုင်ဆောင်ရွက်လိုသည့် လုပ်ငန်းနှင့် သက်ဆိုင်သော နိုင်ငံတော်မှ ထုတ်ပြန်ထားသည့် ဥပဒေနှင့်အညီ ဖွဲ့စည်း တည်ထောင်ထားသော အသင်းအဖွဲ့ (အသင်း အဖွဲ့များ)၊ အဖွဲ့ (အဖွဲ့များ)၊ အသင်း (အသင်းများ) သို့မဟုတ် အခြားအဖွဲ့အစည်း တစ်ခုခု (အဖွဲ့အစည်းများ)၊ စီးပွားရေးလုပ်ငန်းရှင်များ။

| အမှတ်စဉ် | အမည် | ရာထူးအဆင့် | ဌာန | လိပ်စာ |
|---|---|---|---|---|

(၃) ကုမ္ပဏီ၏ ဒါရိုက်တာများသည် ( ) ဦးထက်မများ ( )ဦးထက် မနည်းစေရ၊ အောက်ပါ အတိုင်းဖြစ်ရမည်-

| ရွေးချယ်သူ | အများဆုံး | အနည်းဆုံး |
|---|---|---|
| **"က" အစုရှင်** | | |
| အများနှင့် သက်ဆိုင်သော ကုမ္ပဏီတွင် သတ်မှတ်ထားသော အရည်အချင်းပြည့်အစုရှယ်ယာများထည့်ဝင်သူဒါရိုက်တာများ | - | - |
| **"ခ" အစုရှင်များ** | - | - |
| (၁) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်မှ နိုင်ငံသားများ | | |
| (၂) အများနှင့် သက်ဆိုင်သောကုမ္ပဏီသည် နိုင်ငံတော်၏ ခွင့်ပြုချက်အရ လုပ်ကိုင်ဆောင်ရွက်လိုသည့် လုပ်ငန်းနှင့် သက်ဆိုင်သောနိုင်ငံတော်မှ ထုတ်ပြန်ထားသည့်ဥပဒေနှင့်အညီ ဖွဲ့စည်းတည်ထောင်ထားသော အသင်းအဖွဲ့ (အသင်းအဖွဲ့များ)၊ အဖွဲ့ (အဖွဲ့များ)၊ အသင်း (အသင်းများ) သို့မဟုတ် အခြားအဖွဲ့အစည်း တစ်ခုခု ဖွဲ့အစည်းများ)၊ စီးပွားရေးလုပ်ငန်းရှင်များ။ | - | - |
| | ______ | ______ |

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

### ဒါရိုက်တာအဖွဲ့ဥက္ကဋ္ဌနှင့် အတွင်းရေးမှူး၊ တွဲဖက်အတွင်းရေးမှူးခန့်အပ်ခြင်း

၇၆။ "က" အစုရှယ်ယာများပိုင်ဆိုင်သူ၊ အများနှင့်သက်ဆိုင်သောကုမ္ပဏီတွင် သတ်မှတ်ထားသော အရည်အချင်းပြည့် အစုရှယ်ယာများ ထည့်ဝင်သူ ဒါရိုက်တာများက ရွေးချယ်ထားသည့် ဒါရိုက်တာများမှ ပုဂ္ဂိုလ်သာလျှင် ဒါရိုက်တာအဖွဲ့ ဥက္ကဋ္ဌဖြစ်ရမည်။ "ခ" အစုရှယ်ယာ ပိုင်ဆိုင်သူများက ရွေးချယ် ထားသည့် ဒါရိုက်တာ များမှ ပုဂ္ဂိုလ်သာလျှင် ဒါရိုက်တာအဖွဲ့ အတွင်းရေးမှူး ဖြစ်ရမည်။ ဥက္ကဋ္ဌမှ "က" အစုရှယ်ယာပိုင်ဆိုင်သူများအနက် သင့်လျော်သူတစ်ဦးအား ဒါရိုက်တာအဖွဲ့ တွဲဖက် အတွင်းရေးမှူး အဖြစ် ခန့်အပ်တာဝန်ပေးနိုင်သည်။ ပူးတွဲ ဒါရိုက်တာများကို မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆ ပုဒ်မခွဲ (ခ) အရ ခန့်အပ်နိုင်သည်။ ဒါရိုက်တာများ၏ တာဝန်ယူခြင်းအတွက် အခကြေးငွေ ထောက်ပံ့ခြင်းကို ကုမ္ပဏီ၏ အထွေထွေ အစည်းအဝေးမှ အခါအားလျော်စွာ သတ်မှတ်ပေး ရမည်။

### ဒါရိုက်တာတစ်ဦးဖြစ်ရန်ပိုင်ဆိုင်ရမည့် အစုရှယ်ယာများ

၇၇။ "က" အစုရှယ်ယာ ပိုင်ဆိုင်သူများမှ ရွေးချယ်သည့် ဒါရိုက်တာတစ်ဦးသည် အရည်းအချင်း ပြည့်ရန် သတ်မှတ်ထားသော အစုရှယ်ယာများကို ပိုင်ဆိုင်သူဖြစ်ရမည်။ "ခ" အစုရှယ်ယာ ပိုင်ဆိုင်သူများက ရွေးချယ်သည့် ဒါရိုက်တာသည် ၎င်းကိုယ်စားပြုသည့် အဖွဲ့အစည်းအဝေး သို့မဟုတ် အဖွဲ့အနေဖြင့်ဖြစ်စေ၊ ယင်း၏ အမည် ယင်း၏ အခွင့်အရေးအရဖြစ်စေ၊ ကုမ္ပဏီတွင် သာမန် တန်ဖိုးကျပ် ............/- (ကျပ်.........) ရှိသော၊ "ခ" အစုရှယ်ယာ (.........)စု အနည်းဆုံး ပိုင်ဆိုင်သူဖြစ်ရမည်။

## မန်းနေးဂျင်းဒါရိုက်တာ၏ လုပ်ပိုင်ခွင့်နှင့် တာဝန်များ

၇၈။ ဒါရိုက်တာများအား ပေးအပ်ထားသည့် ယေဘုယျလုပ်ပိုင်ခွင့်နှင့် တာဝန်များကို ထိခိုက်စေခြင်းမရှိစေဘဲ၊ ဒါရိုက်တာအဖွဲ့မှ အထူးဆုံးဖြတ်ချက်ဖြင့် တာဝန်ပေးအပ်ထားသော လုပ်ပိုင်ခွင့်နှင့် တာဝန်များကို မန်းနေးဂျင်းဒါရိုက်တာမှဆောင်ရွက်ခွင့် ရှိစေရမည်။ မန်းနေးဂျင်းဒါရိုက်တာ သည် ကုမ္ပဏီ၏ လုပ်ငန်းကိစ္စရပ်များကို နေ့စဉ် နေ့တိုင်းစီမံအုပ်ချုပ်ရန်၊ ကြီးကြပ်ရန်နှင့် ညွှန်ကြားခြင်းများ ပြုလုပ်ရန်၊ ထို့အပြင် အဆိုပါကိစ္စရပ်များနှင့် ဆက်စပ်လျက် မည်သည့်ပုဂ္ဂိုလ်များနှင့် ဖြစ်စေ၊ ဌာန၊ အဖွဲ့အစည်း၊ ကုမ္ပဏီများနှင့်ဖြစ်စေ၊ လုပ်ငန်းနှင့် ပတ်သက်သော ဆက်ဆံမှုများ ပြုလုပ်ရန် အတွက် လုပ်ပိုင်ခွင့် နှင့် တာဝန်များ ရှိစေရမည်။ ဒါရိုက်တာ အဖွဲ့သည် မန်နေဂျင်း ဒါရိုက်တာအား ခိုင်လုံသော အကြောင်းပြချက်ဖြင့်သာ တာဝန်မှရပ်စဲခြင်း၊ ထုတ်ပယ်ခြင်း၊ အစားထိုး ခန့်ထားခြင်းကို အထူးဆုံးဖြတ်ချက် ချမှတ်၍ ဆောင်ရွက်ခွင့်ရှိစေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

### ကုမ္ပဏီလုပ်ငန်းကို စီမံခန့်ခွဲရန် ဒါရိုက်တာများ၏ အထွေထွေလုပ်ပိုင်ခွင့်

၇၉။ ကုမ္ပဏီ၏ လုပ်ငန်းကို ဒါရိုက်တာများက စီမံအုပ်ချုပ်ရမည်။ ထိုပုဂ္ဂိုလ်တို့သည် ကုမ္ပဏီကို ပျိုးထောင်ခြင်းနှင့် မှတ်ပုံတင်ခြင်းကိစ္စရပ်အသီးသီးအတွက် ကုန်ကျစရိတ် အဖိုးအခများ အားလုံးကို ပေးချေနိုင်သည်။ ထို့အပြင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရဖြစ်စေ၊ လက်တလော အချိန်တွင် တည်ဆဲဖြစ်သော မည်သည့်ဥပဒေပြောင်းလဲချက်အရဖြစ်စေ၊ ဤသင်းဖွဲ့စည်းမျဉ်းများ အရဖြစ်စေ အထွေထွေ အစည်းအဝေးကြီးတွင် ကုမ္ပဏီက သုံးစွဲဆောင်ရွက်ရန် မလိုအပ်သော အာဏာများကို ယင်းဒါရိုက်တာများက သုံးစွဲနိုင်သည်။ သို့ရာတွင် ထို့သို့ဖြစ်စေကာမူ ဤစည်းမျဉ်း အရသတ်မှတ်ချက် တစ်ခုကိုလည်းကောင်း၊ အဆိုပါ အက်ဥပဒေပြုပြင် ပြောင်းလဲချက်များကို လည်းကောင်း၊ အထွေထွေ အစည်းအဝေးကြီးတွင် ကုမ္ပဏီကဆိုခဲ့သော ဥပဒေပြဋ္ဌာန်းချက်များနှင့် မကိုက်ညီခြင်း မရှိသည်လည်း မဟုတ်သော စည်းမျဉ်းများကို လည်းကောင်း ဒါရိုက်တာများက လိုက်နာရမည်။ သို့ရာတွင် ကုမ္ပဏီက ထိုသို့သော မည်သည့် စည်းမျဉ်းကမျှ အဆိုပါစည်းမျဉ်းကို အထွေထွေအစည်းအဝေးတွင် ပြုခဲ့သည့် မဟုတ်လျှင် ခိုင်လုံလိမ့် မည် ဖြစ်သော ဒါရိုက်တာများ၏ ယခင်ပြုလုပ်မှုတစ်ခုခုကို မခိုင်လုံသည် မဖြစ်စေရ။

### မန်နေဂျာ သို့မဟုတ် မန်နေးဂျင်းဒါရိုက်တာခန့်ထားခြင်း

၈၀။ မန်နေဂျင်းဒါရိုက်တာသည် ကုမ္ပဏီ၏ ဦးစီးအလုပ်အမှုဆောင် ဖြစ်စေရမည်။ ထို့ပြင် ဒါရိုက်တာအဖွဲ့ကရွေးချယ်ခန့်ထားရမည်။ ၎င်းတို့သင့်လျော်သောအချိန်ကာလနှင့် သင့်လျော်သော ထောက်ပံ့ကြေး(လခစား သို့မဟုတ် ကော်မရှင် သို့မဟုတ် အမြတ်ဝေစုခံစားခွင့် သို့မဟုတ် တစ်မျိုးစီကို တစ်စိတ်တစ်ဒေသခံစားခွင့်)ကို ၎င်းတို့ကသင့်လျော်သည်ဟုထင် မြင်သည့်အတိုင်း ပေး၍ ခန့်ထားနိုင်သည်။ထို့ပြင် ယင်းသို့ခန့်ထားခြင်း ခံရသောဒါရိုက်တာတစ်ဦးသည် ထိုရာထူးတွင် ရှိနေဆဲကာလအတွင်း အလှည့်ကျအနားယူစေခြင်းသော် လည်းကောင်း၊ ထိုကဲ့သို့ အလှည့်ကျ အနားယူစေရန် ထည့်သွင်း စဉ်းစားဆုံးဖြတ်ခံရခြင်းသော် လည်းကောင်း မရှိစေရ။ သို့သော် ထိုသူသည် အကြောင်းကိစ္စတစ်ခုခုကြောင့် ဒါရိုက်တာတစ်ဦးအဖြစ်မှ အကယ်၍ ရပ်စဲသွားစေလျှင် အဆိုပါခန့်ထားမှုကိုရှိရင်း အခြေအနေများအပေါ်မူတည်၍ ဆုံးဖြတ်ရမည့်ကိစ္စရပ်ဟုမှတ်ယူရမည်

သို့မဟုတ် အဆိုပါပုဂ္ဂိုလ်၏ မန်နေဂျင်း ဒါရိုက်တာရာထူး လက်ရှိထားခွင့်ကိစ္စကို အထွေထွေ အစည်းအဝေးကြီးမှ ဆုံးဖြတ်ပေးရမည်။

**ထုတ်ဝေပြီးမတည်ငွေရင်းထက်ပိုလွန်သောချေးယူထားသည့် ကြွေးမြီ**

၈၁။ ယခုလတ်တစ်လော အချိန်တွင် ဒါရိုက်တာများသည် ကုမ္ပဏီအတွက် ချေးငှားယူခြင်းဖြင့်သော်လည်းကောင်း၊ အခြားနည်းဖြင့်သော်လည်းကောင်း၊ (အစုရှယ်ယာမတည်ငွေရင်းထုတ်ဝေခြင်းအပြင်)ရရှိထားသော ငွေကြေးအနက် မရှင်းလင်းရသေးသဖြင့် ကျန်ရှိနေသည်ငွေ ပမာဏသည် မည်သည့် အချိန်၌မဆို ကုမ္ပဏီ၏ အထွေထွေ အစည်းအဝေး၏ ခွင့်ပြုချက်မရဘဲ ထုတ်ဝေပြီးသော အစုရှယ်ယာမတည်ငွေရင်းထက်ပိုလွန်ခြင်း မရှိစေရ။

**မှတ်ပုံတင်စာရင်းစသည်များပြုစုခြင်း**

၈၂။ ဒါရိုက်တာများသည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် ဆိုခဲ့သော ဥပဒေ ပြုပြင် ပြောင်းလဲချက်များအတိုင်းနည်း လမ်းတကျလိုက်နာပြီး၊ ကုမ္ပဏီနှင့် ကုမ္ပဏီက ဖန်တီးသော ပစ္စည်း ဥစ္စာများဆိုင်ရာပေါင်နှံခြင်း အခကြေးငွေကိစ္စရပ်များ မှတ်ပုံတင်စာရင်း ပြုစုထားခြင်းကို လည်းကောင်း၊ ဒါရိုက်တာများ စာရင်းကို မှတ်ပုံတင်ခြင်းတစ်ရပ် ပြုလုပ်ထားခြင်းကိုသော်လည်း ကောင်း၊ မှတ်ပုံတင်အရာရှိထံအဖွဲ့ဝင်စာရင်းကို နှစ်စဉ်ပေးပို့ခြင်းကိုသော်လည်းကောင်း၊ ယင်းကိစ္စ ရပ်များဆိုင်ရာ အကြောင်းအကျဉ်း တစ်စောင်ကို လည်းကောင်း၊ မတည်ငွေရင်း စုစည်းခြင်း သို့မဟုတ် တိုးချဲ့ခြင်းအတွက် အသိပေးအကြောင်းကြားစာ၊ နို့တစ်စာပေးပို့ခြင်းကို လည်းကောင်း၊ အထူး ဆုံးဖြတ်ချက်မိတ္တူများပေးပို့ခြင်းကိုလည်းကောင်း၊ ဒါရိုက်တာများစာရင်း မိတ္တူတစ်စောင် ပေးပို့ခြင်းကို လည်းကောင်း၊ အခြားအပြောင်းအလဲများဆိုင်ရာ အကြောင်းကြား စာများပေးပို့ခြင်း များကိုလည်း အထူးသဖြင့် ယင်းဥပဒေ ပြဋ္ဌာန်းချက်များနှင့် အညီ ပြုလုပ်ရမည်။

**အစည်းအဝေးမှတ်တမ်းများ**

၈၃။ ဒါရိုက်တာများသည် အောက်ပါကိစ္စအတွက်ထားရှိသောစာအုပ်များတွင်ရေးသွင်း မှတ်တမ်း တင်ထားစေရမည်-

(က) ဒါရိုက်တာများက အရာရှိများခန့်ထားခြင်းကိစ္စအားလုံး၊

(ခ) ဒါရိုက်တာများ၏ အစည်းအဝေး အသီးသီးတွင် လည်းကောင်း၊ ဒါရိုက်တာများ၏ မည်သည့် ကော်မတီမဆို အစည်းအဝေး အသီးသီးတွင် လည်းကောင်း၊ တက်ရောက် သော ဒါရိုက်တာများ၏ အမည်များ၊

(ဂ) ကုမ္ပဏီ၏အစည်းအဝေးများ၊ ဒါရိုက်တာများ၏ အစည်းအဝေးများ၊ ဒါရိုက်တာများ၏ ကော်မတီများ အစည်းအဝေး အားလုံးတွင် ပြုလုပ်သော ဆုံးဖြတ်ချက်များနှင့် ဆောင် ရွက်ချက်များအားလုံး။

(ဃ) ထို့ပြင်မည်သည့်ဒါရိုက်တာများ အစည်းအဝေး သို့မဟုတ် ဒါရိုက်တာများ၏ ကော်မတီ အစည်းအဝေးသို့ တက်ရောက်သော ဒါရိုက်တာတိုင်းသည် ယင်းကိစ္စ အလို့ငှာ ထားရှိ သော စာအုပ်တွင် လက်မှတ်ရေးထိုးရမည်။

### ကုမ္ပဏီတံဆိပ်ခတ်နှိပ်ရန်စည်းကမ်းများ

၈၄။ ကုမ္ပဏီ၏တံဆိပ်ကို ဒါရိုက်တာဘုတ်အဖွဲ့၏ဆုံးဖြတ်ချက်အရ တာဝန်ပေးအပ် ခြင်းခံရသူဖြစ်စေ၊ ဒါရိုက်တာအနည်းဆုံးနှစ်ဦးနှင့်အတွင်းရေးမှူး သို့မဟုတ် ယင်းကိစ္စအလို့ငှာ ဒါရိုက်တာများကခန့်ထားသော အခြားပုဂ္ဂိုလ် ရှေ့မှောက်တွင်ဖြစ်စေမှ တစ်ပါး မည်သည့်စာချုပ်စာတမ်း တစ်ခုခုတွင်မျှ ခတ်နှိပ်ခြင်းမပြုရ ဖော်ပြပါ ဒါရိုက်တာနှစ်ဦးနှင့် အတွင်းရေးမှူး သို့မဟုတ် အဆိုပါ အခြားပုဂ္ဂိုလ်တို့သည် မိမိတို့၏ရှေ့မှောက်တွင် ကုမ္ပဏီတံဆိပ်ကို ခတ်နှိပ်ထားသော စာချုပ်စာတမ်းတိုင်းတွင် မိမိတို့ရှေ့မှောက်၌ ခတ်နှိပ်ကြောင်း လက်မှတ်ရေးထိုးရမည်။

## ဒါရိုက်တာများ ခန့်အပ်ခြင်းနှင့် အရည်အချင်းပျက်ယွင်းခြင်း

### ဒါရိုက်တာများ ခန့်အပ်ခြင်းနှင့် ပတ်သက်၍ ကန့်သတ်ချက်များ

၈၅။ သင်းဖွဲ့စည်းမျဉ်းများကို မှတ်ပုံတင်ခြင်းမပြုလုပ်မီ မှတ်ပုံတင်အရာရှိထံတွင် ဒါရိုက်တာအဖြစ်ဆောင်ရွက်လိုကြောင်း စာဖြင့်လက်မှတ်ရေးထိုး၍ တင်သွင်းသူမဟုတ်လျှင် သင်းဖွဲ့စည်းမျဉ်းတွင် ဒါရိုက်တာအဖြစ်ခန့်အပ်ခြင်း မပြုရ။

### ဒါရိုက်တာ ရာထူးလစ်လပ်ခြင်း

၈၆။ ဒါရိုက်တာရာထူးသည် ဒါရိုက်တာ သို့မဟုတ် ယင်းကိုယ်စားပြုသည့် အဖွဲ့ သို့မဟုတ် အဖွဲ့အစည်း နှင့်ပတ်သက်၍ အောက်ပါကိစ္စ တစ်ခုခုပေါ်ပေါက်လျှင် လစ်လပ်စေရမည်-

(က) ခန့်ထားပြီးနှစ်လအတွင်း ရာထူးရယူရန် သော်လည်းကောင်း၊ ထို့နောက် မည်သည့်အချိန်မဆို မိမိအား ဒါရိုက်တာ ရာထူးခန့်ထားရန် အရည်အချင်း ပြည့်စုံစေရေးအတွက် ပိုင်ဆိုင်ရန်လိုအပ်သော အစုရှယ်ယာ အမျိုးအစား (ရှိလျှင်)ကို မိမိကပိုင်ဆိုင်ခြင်းမှ ရပ်စဲလျှင်၊

(ခ) စိတ်ပေါ့သွပ်သူဖြစ်ကြောင်း စီရင်ပိုင်ခွင့် အာဏာရှိတရားရုံးမှတွေ့ရှိလျှင်၊

(ဂ) လူမွဲအဖြစ်စီရင်ခံရလျှင်၊

(ဃ) မိမိ သို့မဟုတ် မိမိကိုယ်စားပြုသော အဖွဲ့တစ်ခုခု သို့မဟုတ် အဖွဲ့အစည်းပိုင် အစုရှယ်ယာများအပေါ်တောင်းခံခြင်းများကို တောင်းခံပြီးသည့်နေ့မှ ခြောက်လအတွင်း ပေးဆပ်ရန်ပျက်ကွက်လျှင်၊

(င) ကုမ္ပဏီအထွေထွေ အစည်းအဝေး၏ဆုံးဖြတ်ခွင့်ပြုချက်မရရှိဘဲမန်နေဂျင်း ဒါရိုက်တာ သို့မဟုတ် မန်နေဂျာ သို့မဟုတ် ဥပဒေ သို့မဟုတ် ကျွမ်းကျင်မှုဆိုင်ရာ အကြံပေး သို့မဟုတ် ငွေထိန်းမှတစ်ပါးကုမ္ပဏီထံမှ အခြားအကျိုးအမြတ်ရရှိနိုင်သော မည်သည့်ရာထူးကိုမဆို လက်ခံခြင်း သို့မဟုတ် တာဝန် ယူခြင်းကိုပြုလျှင်၊

(စ) ဒါရိုက်တာများ ဘုတ်အဖွဲ့ထံ ပျက်ကွက်ခြင်း အတွက်ခွင့်ပန်ခြင်းမရှိဘဲ ဒါရိုက်တာများအစည်းအဝေးသို့ သုံးကြိမ်ဆက်တိုက် တက်ရောက်ရန် ပျက်ကွက်ခြင်း သို့မဟုတ် ဒါရိုက်တာများ အစည်းအဝေး အားလုံးကို တစ်ဆက်တည်းဖြစ်သော သုံးလတာအထိ တက်ရောက်ရန် ပျက်ကွက်ခြင်းတို့အနက် အချိန်ပို၍ကြာရှည်သော ကိစ္စကို ကျူးလွန်လျှင်၊

(ဆ) ကုမ္ပဏီမှ ချေးငွေ သို့မဟုတ် အာမခံတစ်ခုလက်ခံရယူလျှင်၊

(ဇ) ကုမ္ပဏီနှင့် ပြုလုပ်သော ကန်ထရိုက် တစ်ခုခု၏ အကျိုးအမြတ်နှင့် ဆက်စပ်နေလျှင် သို့မဟုတ် ပါဝင်ခံစားခြင်းရှိလာလျှင်၊

(ဈ) ခြောက်လထက်ပိုသော ထောင်ဒဏ်ချမှတ်ခြင်းခံရလျှင်၊

(ည) သင်းဖွဲ့စည်းမျဉ်းအပိုဒ် ၇၆ (၂) အပိုဒ်ခွဲ (၁) (၂) ပြည်ထောင်စု သမ္မတမြန်မာ နိုင်ငံတော် နိုင်ငံသားများ (သို့မဟုတ်) နိုင်ငံတော်၏ ခွင့်ပြုချက်အရ လုပ်ကိုင် ဆောင်ရွက်လိုသည့် လုပ်ငန်းနှင့် သက်ဆိုင်သော တည်ဆဲ ဥပဒေနှင့်အညီ ဖွဲ့စည်း တည်ထောင်ထားသည့် အဖွဲ့အစည်း တစ်ခုခုတို့မှ ကိုယ်စားပြု ရွေးချယ်သဖြင့် ဒါရိုက်တာ လူကြီးဖြစ်လာသူများသည် မိမိထမ်းဆောင်နေသည့် ရာထူးမှရပ်စဲလျှင် သို့မဟုတ် ကိုယ်စားပြုအဖွဲ့အစည်း မှ ပြောင်းရွှေ့သွားလျှင် သို့မဟုတ် စစ်မှုထမ်း ဟောင်း အဖွဲ့ဝင် အဖြစ်မှ ရပ်စဲလျှင်၊

သို့ရာတွင် မည်သို့ပင် ဖြစ်စေကာမူ ဒါရိုက်တာတစ်ဦးသည် ဒါရိုက်တာများ၏ ခွင့်ပြုချက်ဖြင့် ကုမ္ပဏီနှင့် ကန်ထရိုက်လုပ်သော သို့မဟုတ် လုပ်ငန်း ဆောင်ရွက်မှု ပြုကြသော အခြားမည်သည့် ကုမ္ပဏီ သို့မဟုတ် အစုစပ်လုပ်ငန်း၏ အစုဝင် သို့မဟုတ် အခြားသူတစ်ဦးနှင့် စပ်တူလုပ်သော လုပ်ငန်းတွင်မဆို အဖွဲ့ဝင်တစ်ဦး ဖြစ်နေရုံမျှနှင့် အဆိုပါသူ၏ ရာထူးနေရာလစ်လပ်စေရမည်ဟု မဖြစ်စေရ။ ဒါရိုက်တာ သည် ယင်းကန်ထရိုက် သို့မဟုတ် လုပ်ငန်းဆောင်ရွက်မှုတွင်သူ မည်၍မည်မျှ ပါဝင် ထားကြောင်းဖော်ပြရမည်။ သို့သော်ယင်းကိစ္စနှင့် ဆက်နွယ်နေသော မဲပေးမှုများတွင် သာမဲပေးခွင့် မရှိစေရ။ အကယ်၍မဲပေးမိလျှင်ယင်းမဲကိုရေတွက်ခြင်း မပြုရ။

## ဒါရိုက်တာများအလှည့်ကျဆောင်ရွက်ခြင်း

### ဒါရိုက်တာများ နှုတ်ထွက်ခြင်း

၈၇။ ကုမ္ပဏီ၏ ပထမဦးဆုံးသော သာမန်အစည်းအဝေးတွင် ဒါရိုက်တာများအားလုံး နှုတ်ထွက် ပေးရမည်။ ယင်းနောက် နှစ်စဉ်ကျင်းပသော သာမန်အစည်းအဝေးတိုင်းတွင် ယင်းကာလ၌ ဆောင် ရွက်နေသော ဒါရိုက်တာများ၏ သုံးပုံတစ်ပုံ သို့မဟုတ် အကယ်၍ အရေအတွက်သည် သုံးဦး မဟုတ်လျှင် သို့မဟုတ် သုံးနှင့်စား၍ မပြတ်လျှင် အနီးစပ်ဆုံး သုံးပုံတစ်ပုံဖြစ်သော ဒါရိုက်တာများ အရေအတွက်သည် နှုတ်ထွက်ပေးရမည်။

### နှုတ်ထွက်ရမည့် ဒါရိုက်တာများရွေးချယ်ခြင်း

၈၈။ ထိုသို့ နှစ်စဉ်နှစ်တိုင်း ဒါရိုက်တာရာထူးမှ နှုတ်ထွက်ပေးရမည့် ကိစ္စရပ်၌ ထိုရာထူးတွင် အကြာရှည်ဆုံးတည်ရှိနေသူ ဒါရိုက်တာများဖြစ်လာသူများ အနက်မှ မည်သူ နှုတ်ထွက်ပေးရမည် နည်းဟုသောကိစ္စပေါ်ပေါက်ခဲ့လျှင် (အချင်းချင်း သဘောတူညီချက်အရမှတစ်ပါး) မဲနှိုက်၍ ဆုံးဖြတ် ရမည်။

**ပြန်လည် အရွေးချယ်ခံပိုင်ခွင့်**

၈၉။ နှုတ်ထွက် အနားယူသွားသော ဒါရိုက်တာတိုင်းသည် ပြန်လည် အရွေးချယ်ခံပိုင်ခွင့် ရှိစေရမည်။

**လစ်လပ်ရာထူးအတွက်အစားထိုးခြင်း**

၉၀။ ကုမ္ပဏီသည် အထက်ဖော်ပြပါ နည်းလမ်းအတိုင်း ဒါရိုက်တာတစ်ဦးဦးက အထွေထွေအစည်းအဝေးတွင် နှုတ်ထွက်သွားသည့်အခါ ထိုအစည်းအဝေး၌ပင် လစ်လပ်သွားသော ရာထူးနေရာကို "က" အစုရှင် နှင့် "ခ" အစုရှင်တို့က အပိုဒ် ၇၆ တွင် ဖော်ပြထားသည့်အတိုင်း အများဆုံးနှင့် အနည်းဆုံး ဦးရေ နှင့်အညီ ပုဂ္ဂိုလ်တစ်ဦးအား အစားထိုးရွေးချယ်နိုင်သည်။

**မဖြည့်ဆည်းသေးသည့် လစ်လပ်ရာထူးများ**

၉၁။ အကယ်၍ ဒါရိုက်တာများ ရွေးချယ်ခန့်ထားရမည်ဖြစ်သော မည်သည့် အစည်း အဝေး၌မဆို လစ်လပ်သွားသော ဒါရိုက်တာရာထူးနေရာများကို အောင်မြင်စွာဖြည့်ဆည်းခြင်း မပြုလုပ်နိုင်ခဲ့ပါက၊ ထိုအစည်းအဝေးကို နောက်ရက်သတ္တပတ်သို့ ထိုနေရာတူ၊ ထိုနေ့တူ၊ ထိုအ ချိန်တူအတိုင်း ရွှေ့ဆိုင်း အစည်းအဝေး ဆက်လက်ကျင်းပပေး၍၊ ယင်းအစည်းအဝေး၌လည်း လစ်လပ်ရာထူး ဖြည့်ဆည်းခြင်းမအောင်မြင်သေးပါက အဆိုပါ လစ်လပ်သွားသောရာထူးတွင် ဆောင်ရွက်ခဲ့သူ ဒါရိုက်တာများကို ပင်လျှင် ပြန်လည်ရွေးချယ်လိုက်သည်ဟု မှတ်ယူရမည်။

**ဒါရိုက်တာများ အရေအတွက်ကို ကုမ္ပဏီက တိုးမြှင့် သို့မဟုတ် လျှော့ချနိုင်ခြင်း**

၉၂။ ဒါရိုက်တာများအရေအတွက်ကို မြန်မာကုမ္ပဏီအက်ဥပဒေပုဒ်မ ၈၃ (က)နှင့် ၈၃ (ခ) ပါ ပြဋ္ဌာန်းချက်များကိုလိုက်နာလျက် ကုမ္ပဏီသည် အထွေထွေအစည်းအဝေးများတွင် ဒါရိုက်တာများ အရေအတွက် တိုးမြှင့်ခြင်း သို့မဟုတ် လျှော့ချခြင်းကို အခါအားလျော်စွာ ပြုပြင်ခွင့်ရှိပြီး ထိုသို့ တိုးမြှင့်ခြင်း သို့မဟုတ် လျှော့ချခြင်း၌ မည်ကဲ့သို့ အလှည့်ကျ နှုတ်ထွက်ရမည့် အရေအတွက်ကို လည်း ပြင်ဆင်သတ်မှတ်ခွင့်ရှိသည်။ ထိုသို့ တိုးမြှင့်ခြင်း သို့မဟုတ် လျှော့ချခြင်း၌ "က" သို့မဟုတ် "ခ" အစုရှင်များအနေဖြင့် တစ်ဘက်ဘက်မှ ရွေးချယ်ရမည့် အများဆုံးနှင့် အနည်းဆုံး ဒါရိုက်တာ ဦးရေကို သတ်မှတ်သည့်စည်းမျဉ်း ၇၆ နှင့် မည်သို့မျှ မဆန့်ကျင်စေရ။

**ရှောင်တခင် လစ်လပ်သောရာထူးတွင် ဒါရိုက်တာများက အစားထိုးနိုင်ခြင်း**

၉၃။ မည်သည့်ရှောင်တခင် ပေါ်ပေါက်လာသော ဒါရိုက်တာဘုတ်အဖွဲ့ဝင် ရာထူးနေရာ လစ်လပ်ခြင်း တစ်ခုခုအတွက်မဆို ဒါရိုက်တာများက ဖြည့်ဆည်းနိုင်ခွင့်ရှိသည်။ သို့သော် ထိုသို့ ဖြည့်ဆည်း ရွေးချယ်လိုက်သော ဒါရိုက်တာသည် နှုတ်ထွက်ခြင်းအလို့ငှာ ထိုသူရွေးချယ်ခံရသော နေရာတွင် မူလဒါရိုက်တာဟောင်း ရှိခဲ့လျှင် နှုတ်ထွက်ပေးရမည့်ကာလအတိုင်းသာ ဖြစ်ရမည်။

### တွဲဖက်ဒါရိုက်တာခန့်ထားရန် ဒါရိုက်တာများ၏ အာဏာ

၉၄။ ဒါရိုက်တာများသည် မည်သည့် အချိန်အခါတွင် မဆိုအခါ အားလျော်စွာ တွဲဖက်ဒါရိုက်တာ အဖြစ်ပုဂ္ဂိုလ်တစ်ဦးအား ခန့်ထားပိုင်ခွင့်အာဏာရှိရမည်။ ထိုတွဲဖက် ဒါရိုက်တာသည် နောက်တစ်ကြိမ်ဆက်လက် ကျရောက်သော သာမန်အထွေထွေ အစည်းအဝေးကြီး၌ နှုတ်ထွက်ပေးရမည်။ သို့သော်ထိုအစည်းအဝေး၌ တွဲဖက်ဒါရိုက်တာ တစ်ဦးအဖြစ် ကုမ္ပဏီကရွေးချယ် ခန့်ထားပိုင်ခွင့် ရှိစေရမည်။

### ဒါရိုက်တာများအား ထုတ်ပယ်ခြင်း

၉၅။ ကုမ္ပဏီသည် မည်သည့်ဒါရိုက်တာ တစ်ဦးကိုမဆို ထိုသူ၏ ရာထူးသက်တမ်းမကုန်ဆုံးမီ အထူး ဆုံးဖြတ်ချက်ဖြင့် ထုတ်ပယ်နိုင်ပြီး ထိုရာထူးအတွက် အခြားပုဂ္ဂိုလ် တစ်ဦးကို သာမန် ဆုံးဖြတ်ချက် ဖြင့် ထိုသူအစား ခန့်ထားနိုင်သည်။ သို့သော် ထိုသို့ ခန့်ထားခြင်းခံရသူ ဒါရိုက်တာ၏ ရာထူး သက်တမ်းသည် မိမိအစားဝင်ရောက်လာသော နေရာတွင် ဆောင်ရွက်ခဲ့သော ဒါရိုက်တာ၏ ရာထူး သက်တမ်းအတိုင်းသာဖြစ်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

### ဒါရိုက်တာများ၏ အစည်းအဝေးများ

၉၆။ ဒါရိုက်တာများသည်မိမိတို့သင့်လျော်သည်ဟုထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရေး အတွက်အတူတကွစည်းဝေးနိုင်၍ မိမိတို့၏ အစည်းအဝေးများကို ရွှေ့ဆိုင်းခြင်းနှင့် အခြားနည်းဖြင့် သတ်မှတ်လျက်အစည်းအဝေးများ ပြုလုပ်နိုင်သည်။ မည်သည့်အစည်းအဝေးတွင်မဆို ပေါ်ပေါက် လာသော ပြဿနာများကို မဲများရာဖြင့် ဆုံးဖြတ်ရမည်။ ထို့သို့ ဆုံးဖြတ်ရာ၌ မဲအရေအတွက်ခြင်း တူညီနေသည့် ကိစ္စရပ်၌ သဘာပတိသည် ဒုတိယ သို့မဟုတ် ဆုံးဖြတ် မဲပေးပိုင်ခွင့်ရှိရမည်။ မည်သည့် အချိန်၌မဆို ဒါရိုက်တာတစ်ဦးဦး၏ တောင်းဆိုချက်အရ ဒါရိုက်တာများ အစည်းအဝေး ကိုအတွင်းရေးမှူးက ခေါ်ပေးရမည်။ သို့မဟုတ် ဒါရိုက်တာ တစ်ဦးက ခေါ်ပေးနိုင်သည်။

### အစည်းအဝေး အထမြောက်စေမည့် ဦးရေ

၉၇။ ဒါရိုက်တာများ၏ လုပ်ငန်းဆောင်ရွက်မှု အစည်းအဝေး အထမြောက်စေရေး အတွက် လိုအပ်သော ဦးရေကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။ ထိုသို့သတ်မှတ်ထားခြင်း မရှိလျှင် လက်ရှိ ဒါရိုက်တာဦးရေ၏ အနည်းဆုံး ငါးဆယ်ရာခိုင်နှုန်းဖြစ်ပြီး ယင်းတို့အနက် အနည်းဆုံး ထက်ဝက်သည် အများပိုင် ကုမ္ပဏီတွင် သတ်မှတ်ထားသော အရည်အချင်းပြည့် အစုရှယ်ယာများ ထည့်ဝင်သူ ဒါရိုက်တာများက ရွေးချယ်သောသူများဖြစ်ရမည်။ ထိုသို့တွက်ချက်ရာ၌ အပိုင်း ဂဏန်းများကို ကိန်းပြည့် အဖြစ် တွက်ချက်ရမည်။

### အစည်းအဝေးအထမြောက်စေမည့် ဦးရေအောက်လျော့နည်းသည်အခါ ဆက်လက်ဆောင်ရွက် နေသော ဒါရိုက်တာ၏ လုပ်ပိုင်ခွင့် နှင့် ကန့်သတ်ချက်

၉၈။ ဆက်လက်ဆောင်ရွက်နေသော ဒါရိုက်တာများသည် မိမိတို့အဖွဲ့ဝင် လစ်လပ်ခြင်း တစ်ခုခု ရှိစေကာမူ ဆောင်ရွက်နိုင်သည်။ သို့ရာတွင် ထိုသူတို့၏ ဦးရေသည် ဒါရိုက်တာများ၏ အစည်း

အဝေးအထမြောက်စေရန် ဦးရေအဖြစ်ဖြင့် ဤစည်းမျဥ်းကသတ်မှတ်ထားသော သို့မဟုတ် စည်းမျဥ်းကို လိုက်နာရသော ဦးရေအောက်လျော့နေလျှင် လည်းကောင်း၊ လျော့နေသမျှ ကာလ ပတ်လုံး လည်းကောင်း ဆက်လက်ဆောင်ရွက်နေသော ဒါရိုက်တာများသည် အဆိုပါ ဦးရေအထိ ဒါရိုက်တာများ ဦးရေကို တိုးမြှင့်ခြင်း သို့မဟုတ် ကုမ္ပဏီ အထွေထွေ အစည်းအဝေး တစ်ရပ် ခေါ်ဆိုခြင်းအလို့ငှာ ဆောင်ရွက်နိုင်သည်။ အခြားကိစ္စ အလို့ငှာ ဆောင်ရွက်နိုင်ခွင့်မရှိ။

**သဘာပတိကို ဒါရိုက်တာများက ရွေးချယ်နိုင်ခြင်း**

၉၉။ ဒါရိုက်တာများသည်မိမိတို့၏ အစည်းအဝေးသဘာပတိကို အများပိုင် ကုမ္ပဏီတွင် သတ်မှတ်ထားသော အရည်အချင်းပြည့် အစုရှယ်ယာများ ထည့်ဝင်သူ ဒါရိုက်တာများက တင်မြှောက်သည့် ဒါရိုက်တာများအနက်မှ ရွေးချယ်ရမည့်အပြင် ထိုရာထူး လက်ရှိထားရန်ဖြစ်သော ကာလအပိုင်းအခြားကို သတ်မှတ်ရမည်။ သို့ရာတွင် အဆိုပါသဘာပတိကို ရွေးချယ်ထားသည် မဟုတ်လျှင် သို့မဟုတ် အစည်းအဝေးတစ်ခုခုတွင် ကျင်းပရန် သတ်မှတ်ထားသည့် အချိန် ရောက်ရှိပြီး ငါးမိနစ်အတွင်း သဘာပတိအဖြစ် ဆောင်ရွက်ရန် မရောက်လျှင်၊ တက်ရောက်သော ဒါရိုက်တာများသည် အလှည့်ကျသဘာပတိကို အစည်းအဝေး၏ သဘာပတိအဖြစ် ရွေးချယ်စေ ရမည်။ သဘာပတိနှင့် အလှည့်ကျ သဘာပတိသည် ရွေးချယ်တင်မြှောက်သည့် ဒါရိုက်တာ များထဲမှ မည်သူမဆိုဖြစ်ရမည်။

**ကော်မတီများ ခန့်ထားနိုင်သည့် အာဏာ**

၁၀၀။ ဒါရိုက်တာများသည် မိမိတို့၏ မည်သည့်အာဏာများကိုမဆို မိမိတို့သင့်လျော်သည် ထင်မြင်သည့်အဖွဲ့ဝင် သို့မဟုတ် အဖွဲ့ဝင်များပါဝင်သော ကော်မတီများသို့ လွှဲအပ်နိုင်သည်။ ထိုသို့ လွှဲအပ်ထားသော အာဏာများကို သုံးစွဲဆောင်ရွက်ရာတွင် ထိုသို့ဖွဲ့စည်းထားသည့် မည်သည့် ကော်မတီမဆို ဒါရိုက်တာများက ထို့သူတို့အပေါ်တွင် တာဝန်ပေးထားသည့် စည်းမျဉ်း များအတိုင်း လိုက်နာဆောင်ရွက်ရမည်။

**ကော်မတီက သဘာပတိ ရွေးချယ်နိုင်ခြင်း**

၁၀၁။ ကော်မတီ တစ်ခုသည် မိမိတို့ အစည်းအဝေး သဘာပတိကို ရွေးချယ် ထားနိုင်သည်။ ထိုသို့ ရွေးချယ်မထားလျှင် သို့မဟုတ် ရွေးချယ်ထားသောသဘာပတိက အဆိုပါ အစည်းအဝေး ကျင်းပရန် သတ်မှတ်ချိန်ရောက်ရှိပြီး ငါးမိနစ်အတွင်း သဘာပတိ အဖြစ်ဆောင်ရွက်ရန် ရောက်ရှိ မလာလျှင် တက်ရောက်သူအဖွဲ့များအနက်မှ တစ်ဦးဦးကို သဘာပတိ အဖြစ်ရွေးချယ်နိုင် သည်။

**ကော်မတီ အစည်းအဝေးများတွင် ဆောင်ရွက်ချက်များ**

၁၀၂။ ကော်မတီတစ်ခုသည် သင့်လျော်သည်ဟု ယူဆသည့်အတိုင်း တွေ့ဆုံစည်းဝေးခြင်းနှင့် ရွှေ့ဆိုင်းခြင်းတို့ကို ပြုလုပ်နိုင်သည်။ မည်သည့်အစည်းအဝေးတွင်မဆို ဆုံးဖြတ်ရန်အကြောင်း ကိစ္စ ပေါ်ပေါက်သော ကိစ္စရပ်များကို မဲများရာဖြင့်ဆုံးဖြတ်ရမည်။ ထို့အပြင် အကယ်၍ မဲအရေအတွက် တူညီနေပါက သဘာပတိသည် ဒုတိယ သို့မဟုတ် ဆုံးဖြတ်မဲပေးပိုင်ခွင့်ရှိရမည်။

